Myanma Agricultural & General Development Public Limited(MAGDPL) မှ BOT စနစ်ဖြင့် လယ်ယာထွက်ကုန်နှင့် ဆီထွက်သီးနှံကုန်ပစ္စည်းများ တင်ချခေတ်မီဘက်စုံသုံးအပြည်ပြည်ဆိုင်ရာဆိပ်ခံတံတားနှင့် ဆက်စပ်သောစီးပွားရေးဆိုင်ရာ အဆောက်အဦများအား တည်ဆောက်၍ငှားရမ်းခြင်းလုပ်ငန်းအား ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂၂-၁၂-၂၀၁၅ | | - |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၆-၁-၂၀၁၆ | ၂၇-၁-၂၀၁၆ | ၂၁ ရက် |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၆-၁-၂၀၁၆ | ၂၅-၁-၂၀၁၆ | ၁၉ ရက် |
| | (ဃ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၆-၁-၂၀၁၆ | ၄-၂-၂၀၁၆ | ၂၈ ရက် |
| ၃။ | PAT အစည်းအဝေး (၄၈/၂၀၁၄) (၅-၁-၂၀၁၆)သို့ တင်ပြခြင်း | ၅-၁-၂၀၁၆ | | |
| ၄။ | PAT အစည်းအဝေးဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားသည့် ရက်စွဲ | ၁၂-၁-၂၀၁၆ | | |
| ၅။ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့်အညီ ESIA စာအုပ်ပေးပို့ ခြင်း | ၈-၁-၂၀၁၆ | | |
| ၆။ | ကုမ္ပဏီမှအဆိုပြုလွှာ(၉)စုံ ပြန်လည်ပေးပို့ခြင်း | ၁၅-၂-၂၀၁၆ | | |
| ၇။ | PAT အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ကုမ္ပဏီမှ ပြင်ဆင်တင်ပြခြင်း | ၂၈-၂-၂၀၁၆ | | |
| ၈။ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ်/နေ့ရက် | (၆/၂၀၁၆) (၂၂-၂-၂၀၁၆) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **၅၅ ရက်** | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Myanma Agricultural & General Development Public Limited (MAGDPL) |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | အများပိုင်ကုမ္ပဏီ (Public Company ဖြစ်ပါသည်။) |
| လုပ်ငန်းအမျိုးအစား | - | BOT စနစ်ဖြင့် လယ်ယာထွက်ကုန်နှင့် ဆီထွက်သီးနှံကုန်ပစ္စည်းများတင်ချ ခေတ်မီဘက်စုံသုံးအပြည်ပြည်ဆိုင်ရာဆိပ်ခံတံတားနှင့်ဆက်စပ်သောစီးပွား ရေးဆိုင်ရာ အဆောက်အဦများအား တည်ဆောက်၍ငှားရမ်းခြင်းလုပ်ငန်း |
| တည်နေရာ | - | ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်း၊ မြေကွက်အမှတ် (၂၉) ရှိ မြေ ၃၇.၀၆ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၅၄၄၅၂.၇၃ သန်း (US$ ၂၈.၄၃၄၂သန်းအပါအဝင်) |
| လုပ်ငန်းသက်တမ်း | - | ကနဦး နှစ် (၅၀) နှင့် (၁၀)နှစ် (၂) ကြိမ် |
| အရင်းကြေကာလ | - | (၁၀) နှစ် (၁၀)လ |
| IRR | - | ၉ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၃.၀၀ (၁ နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၁၄၂၁.၇၁ | |
| ၄ | ဝင်ငွေခွန် | ၄၃၈၈.၅၀ | ၁၀၇၂၉.၄၀ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၃၄၈၈.၈၁ |
| ၆ | မြေငှားရမ်းခ | | ၁၀၆၂၅.၇၅ |
| ၇ | လျှပ်စစ်မီးသုံးစွဲခ | | ၁၀၀၀.၀၀ |
| ၈ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ၂၅.၈၀ |
| ၉ | CSR (၁%) | | ၁၃၂.၇၈ |
| | | | ပြည်တွင်းဝန်ထမ်း (၇၈)ဦးအလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| | **စုစုပေါင်း** | ၅၈၄၀.၂၁ | ၂၆၀၀၃.၇၁ |
| | **Cost : Benefit** | ၁ : ၄ | |

**Myanma Agricultural & General Development Public Limited(MAGDPL) မှ BOT စနစ်ဖြင့် လယ်ယာထွက်ကုန်နှင့် ဆီထွက်သီးနှံကုန်ပစ္စည်းများ တင်ချခေတ်မီဘက်စုံသုံးအပြည်ပြည်ဆိုင်ရာဆိပ်ခံတံတားနှင့်ဆက်စပ်သော စီးပွားရေးဆိုင်ရာ အဆောက်အဦများအားတည်ဆောက်၍ ငှားရမ်းခြင်းလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်းသည့်အချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Myanma Agricultural & General Development Public Limited (MAGDPL) |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးထွန်းလွင် (အဘ-ဦးထျွန်ပို့) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - အများပိုင်ကုမ္ပဏီ(Public Company ဖြစ်ပါသည်။) |
| | အဆိုပြုလုပ်ငန်းအမျိုးအစား | - BOTစနစ်ဖြင့် လယ်ယာထွက်ကုန်နှင့် ဆီထွက်သီးနှံကုန်ပစ္စည်းများတင်ချခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတားနှင့် ဆက်စပ်သောစီးပွားရေးဆိုင်ရာ အဆောက်အဦများအား တည်ဆောက်၍ ငှားရမ်းခြင်းလုပ်ငန်း<br>- (ဆက်စပ်သော စီးပွားရေးဆိုင်ရာ အဆောက်အဦများ တည်ဆောက်ခြင်းဆိုသည်မှာ ၁၃.၈၈ ဧက ကျယ်ဝန်းသော ကျောထောက်နောက်ခံမြေပေါ်တွင် ပဲမျိုးစုံ၊ ပြောင်း၊ နှမ်း၊ ကောက်ပဲသီးနှံနှင့် သွင်းကုန်ပစ္စည်းတို့ အား အဆင့်မြှင့်တင်သန့်စင်မည့် စက်များတပ်ဆင်ထားသည့် အဆောက်အဦများ၊ သိုလှောင်မည့် Bonded Warehouse များနှင့် Silo များအားတည်ဆောက်၍ငှားရမ်းခြင်း ဖြစ်ပါသည်။) |
| | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်း၊ မြေကွက်အမှတ် (၂၉)ရှိမြေ ၃၇.၀၆ ဧက<br>Portion A, Cargo Yard Area ၁၄.၅၅ ဧက<br>Portion B, Grain & Bean Processing Area ၁၃.၈၈ ဧက<br>Portion C, Admin & Operation Area ၈.၆၃ ဧက<br>**စုစုပေါင်း ၃၇.၀၆ ဧက** |
| ၂။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း<br>တည်ဆောက်ရေးကာလ | - ကနဦးနှစ်(၅၀)နှင့် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ်<br>- (၃) နှစ် |
| ၃။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>- စက်ပစ္စည်းများနှင့်လျှပ်စစ်ပစ္စည်းများ<br>- အဆောက်အဦ | - **ကျပ် ၅၄၄၅၂.၇၃ သန်း (US$ ၂၈.၄၃၄၂ သန်း အပါအဝင်)**<br>ကျပ် ၁၃၀၅.၉၀ သန်း<br>ကျပ် ၁၂၄၄၂.၇၁ သန်း (US$ ၁၁.၁၁၀၀ သန်း အပါအဝင်)<br>ကျပ် ၄၀၇၀၄.၁၂ သန်း (US$ ၁၇.၃၂၄၂ သန်းအပါအဝင်)<br>(1 USD 1000ks) |
| ၄။ | လုပ်သားအင်အား | ပြည်တွင်း ၇၈ ဦး (အနိမ့်ဆုံး ဝန်ထမ်းလစာမှာ US$ ၁၂၀ ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်းလစာမှာ US$ ၂၅၀၀ ဖြစ်ပါ သည်။)<br>ပြည်ပ - မရှိပါ။ |

၅။ ဝန်ဆောင်မှု(၆)နှစ်မြောက်

ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်း

| စဥ် | အကြောင်းအရာ | ရေတွက်ပုံ | ဝန်ဆောင်မှု ပမာဏ | တစ်နှစ်ငှားရမ်းခနှုန်း (US$/ Unit) | စုစုပေါင်းဝင်ငွေ (US$) |
|---|---|---|---|---|---|
| (က) | General Cargo | Ton | ၇၂၀၀၀၀ | ၄.၇၃ | ၃၄၀၂၀၀၀ |
| (ခ) | Warehouse Rental | Acre | ၈ | ၆၉၅၀.၀၀ | ၅၅၅၉၈ |
| (ဂ) | Berth Hire | Vessel | ၂၉၂ | ၃၇၀ | ၁၀၈၀၄၀ |
| (ဃ) | Wharfage | Ton | ၅၇၆၀၀၀ | ၀.၀၂ | ၁၂၃၄၃ |
| (င) | Mooring/ Un-mooring | Vessel | ၇၂ | ၁၄၇.၀၀ | ၁၀၅၈၄ |
| (စ) | Container Service | TEU | ၄၈၀၀၀ | ၈၀.၀၀ | ၃၈၄၀၀၀၀ |
| | စုစုပေါင်း | | | | ၇၄၂၈၅၆၅ |

၆။ ဝင်ငွေ
- US$ ၇.၄၃ သန်း

အသုံးစရိတ်
- US$ ၄.၇၇ သန်း

အသားတင်အမြတ်
- US$ ၂.၆၆ သန်း

၇။ နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်

ဝင်ငွေခွန်
- US$ ၀.၈၉ သန်း

ကုန်သွယ်လုပ်ငန်းခွန်
- US$ ၀.၃၅ သန်း

အရင်းကြေကာလ
- (၁၀)နှစ် နှင့် (၁၀)လ

IRR
- ၉ %

၈။ သက်ဆိုင်ရာဌာနများမှ သဘောထား
- ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနနှင့် မြန်မာနိုင်ငံအင်ဂျင်နီယာ အသင်းတို့မှ ထောက်ခံ တင်ပြထားပါသည်။

၉။ ငွေကြေးအထောက်အထား
- ကျပ်ငွေ အထောက်အထားအဖြစ် Myanma Agricultural & General Development Public Limited အမည်ဖြင့် Co-Operative Bank LTD (CB Bank) ရှိ (၃၁-၃-၂၀၁၅) နေ့ ငွေလက်ကျန် ကျပ်၃,၃၄၅,၈၄၅,၀၈၄ ရှိကြောင်း တင်ပြထားပါသည်။
- နိုင်ငံခြားငွေ အထောက်အထားအဖြစ် တင်ပြထားခြင်းမရှိပါ။

၁၀။ ကတိဝန်ခံချက်
- သက်ဆိုင်ရာ စည်းမျဉ်းစည်းကမ်းများအား လိုက်နာမည် ဖြစ်ကြောင်း ဝန်ခံချက်များ တင်ပြထားပါသည်။

၁၁။ လျှပ်စစ်ဓါတ်အား
- လျှပ်စစ်ဓါတ်အား ၄၂ ကီလိုဝပ် နာရီသန်းပေါင်းနှင့် ဓါတ်ဆီ၊ ဒီဇယ် အင်ဂျင် စက်အင်အား ၆၂၁၀ ကီလိုဝပ် သုံးစွဲမည်ဖြစ်ပါသည်။

၁၂။ အခွန်အကောက် ကင်းလွတ်ခွင့် လျှောက်ထားချက်
- မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၁၁)၊ ပုဒ်မ၂၀ပါ (က၊ဂ၊စ၊ဆ၊ဇ၊ည)အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုတင်ပြလျှောက်ထားလျှင်ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

၁၃။ ပို့ဆောင်ရေးဝန်ကြီးဌာနမှ တင်ပြချက်
- မြေဧရိယာ ၃၇.၀၆ ဧကရှိသည့်အနက် မြေဧရိယာ ၂၃.၁၈ဧက ခန့် ကို ဆိပ်ကမ်းလုပ်ငန်းနှင့် သက်ဆိုင်သည့် အထောက်အကူပြု အဆောက်

| | | |
|---|---|---|
| | | အဦများကို အကောင်အထည်ဖော်ဆောင်ရွက်ရန် ရည်ရွယ်ထားပြီး မြစ်ကမ်းနေရာတွင် မျက်နှာစာ အလျား ၁၉၀ မီတာ × အကျယ် ၃၀ မီတာအရွယ်ရှိ ပဲမျိုးစုံနှင့် နှမ်းစသည့် ကုန်ပစ္စည်းများကိုင်တွယ်နိုင်သည့် ခေတ်မီ အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတားတစ်စင်းကို အကောင်အထည်ဖော် ဆောင်ရွက်သွားရန် ရည်ရွယ်ထားကြောင်း။<br>- စီမံကိန်းလုပ်ငန်းတစ်ခုလုံးကို(၃)နှစ်အတွင်းပြီးစီးအောင် တည်ဆောက်သွားမည်ဖြစ်ပြီး ပထမအဆင့် စီမံကိန်းလုပ်ငန်းများကို ခွင့်ပြုချက် ရရှိ ပြီး ၁၈ လအတွင်း ပြီးစီးအောင်တည်ဆောက် သွားမည်ဖြစ်ကြောင်း။<br>- စုစုပေါင်းဝင်ငွေတွက်ချက်ရာတွင် ပါဝင်သည့် မြေငှားရမ်းခ ဝင်ငွေ၌ စီးပွားရေးလုပ်ငန်းဆောင်တာများ အတွက်လျာထားသည့် မြေ၁၃.၈၈ ဧကခန့်အတွက် တစ်နှစ်မြေ ၁ ဧကကို ကျပ် ၆,၄၈၆,၄၉၀ နှုန်းဖြင့် စုစုပေါင်းကျပ် ၉၀,၀၃၂,၄၈၂ (သို့) ထပ်ဆင့်ငှားရမ်းခြင်းမှ ရရှိသည့် ဝင်ငွေအပေါ် သက်ဆိုင်ရာနှစ်အလိုက်သတ်မှတ်ရာခိုင်နှုန်းအရ ကျသင့်သည့်ငွေ နှစ်ရပ်အနက်များရာကို ပေးဆောင်ရမည် ဖြစ်ကြောင်း။<br>- ထပ်ဆင့်ငှားရမ်းခြင်းမရှိပါက ကျပ် ၉၀,၀၃၂,၄၈၂ ထည့်သွင်း တွက်ချက်၍ သက်ဆိုင်ရာနှစ်အလိုက် သတ်မှတ်ရာခိုင် နှုန်းထားအရ MPA သို့ ပေးဆောင်ရမည်ဖြစ်ကြောင်း။<br>- MAGDPL သည် ကျောထောက်နောက်ခံမြေ ၁၃.၈၈ ဧကခန့် တွင် စီးပွားရေးဆိုင်ရာ လုပ်ငန်းဆောင်တာများကို အကောင်အထည်ဖော် ဆောင်ရွက်ရန် ကော်မရှင်သို့ ထပ်မံတင်ပြ၍ ခွင့်ပြုချက်ရယူကာ အခြားရင်းနှီးမြှုပ်နှံသူများသို့တစ်ဆင့်ငှားရမ်း ခွင့်ပြုရန် ဖြစ်ကြောင်း။<br>- MAGDPLသည် အငှားချထားသည့် မြေနေရာတွင် လယ်ယာ လုပ်ကိုင်လျက်ရှိသောလယ်သမားများအတွက် ကရုဏာ ထောက်ပံ့ကြေးငွေများကို ညှိနှိုင်းဆောင်ရွက်ပေးပြီးဖြစ်ကြောင်း။<br>- ကော်မရှင်သို့ အဆိုပြုချက်အားတင်ပြရန်အတွက် ပို့ဆောင်ရေးဝန်ကြီး ဌာန၊စီမံခန့်ခွဲရေးကော်မတီအစည်းအဝေး ၁၉/၂၀၁၅(၁၉-၁၁-၂၀၁၅) က သဘောတူခွင့်ပြုထားပြီးဖြစ်ကြောင်း။ |
| ၁၄။ | ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ BOT ပဋိညာဉ် စာချုပ် (မူကြမ်း)နှင့် မြေငှားစာချုပ် (မူကြမ်း)ပါ အဓိကအချက်များ | - မြေအသုံးချမှုပရီမီယံကြေးအတွက် မြေ ၁ ဧကလျှင် ကျပ် (၁၅)သန်း ဖြင့် စုစုပေါင်း ၃၇.၀၆ ဧကအတွက် ကျပ် ၅၅၅,၉၀၀,၀၀၀ ကို အောက်ပါအတိုင်း ပေးချေရပါမည်-<br>(က) ပထမအရစ်အဖြစ် မြေအသုံးချမှုပရီမီယံကြေး၏ ၅၀% ဖြစ်သော ကျပ် (၂၇၇,၉၅၀,၀၀၀)ကို မြေငှားစာချုပ် လက်မှတ်ရေးထိုးပြီး ရက်ပေါင်း ၃၀ အတွင်း ပေးချေရပါမည်။<br>(ခ) ဒုတိယအရစ်အဖြစ် မြေအသုံးချမှုပရီမီယံကြေး၏ ၅၀% ဖြစ်သောကျပ် (၂၇၇,၉၅၀,၀၀၀)ကို မြေငှားစာချုပ် လက်မှတ်ရေး ထိုးပြီးတစ်နှစ်အတွင်းပေးချေရပါမည်။ **(မြေငှားစာချုပ်အပိုဒ် ၂)** |

| | | |
|---|---|---|
| | | - နှစ်စဉ်မြေငှားရမ်းခ နှုန်းထားများမှာစာချုပ်၏ နောက်ဆက်တွဲ(ဂ)တွင် ဖော်ပြထားသည့်အတိုင်း စုစုပေါင်းဆိပ်ကမ်း အခွန်အခဝင်ငွေကို တွက်ချက်ပြီး စီမံကိန်း လုပ်ငန်းမှ ဝင်ငွေ ရရှိသည့်နေ့မှစ၍ မြေငှားရမ်းခကို အောက်ပါအတိုင်း ပေးချေရပါမည်-<br>(က) ပထမနှစ်မှ (၁၀)နှစ်မြောက် အတွက် စုစုပေါင်း ဝင်ငွေ၏ ၆ %<br>(ခ) (၁၁)နှစ်မှ (၂၀)နှစ်မြောက် အတွက် စုစုပေါင်း ဝင်ငွေ၏ ၁၂ %<br>(ဂ) (၂၁)နှစ်မှ (၃၅)နှစ်မြောက် အတွက် စုစုပေါင်း ဝင်ငွေ၏ ၁၈ %<br>(ဃ) (၃၆)နှစ်မြောက်နှင့်အထက်အတွက် စုစုပေါင်း ဝင်ငွေ၏ ၂၀ %<br>- လုပ်ငန်းလုပ်ကိုင်ခွင့်ကာလသက်တမ်းမှာကနဦး ၅၀ နှစ်နှင့် ကော်မရှင်ခွင့်ပြုချက်ဖြင့် တစ်ကြိမ် လျှင် ၁၀ နှစ် ဖြင့် ၂ ကြိမ် တိုးမြှင့်နိုင်သည်။ လုပ်ငန်းကနဦးသက်တမ်းစတင်မှုကို သဘောတူစာချုပ်အားစာချုပ်ဝင်နှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ စတင်ရေတွက်သည်။<br>- စီးပွားရေးလုပ်ငန်းဆောင်တာများ ဆိုသည်မှာ ဖော်ထုတ် ထား သော မြေပေါ်၌ "ကောက်ပဲသီးနှံ အဆင့်မြှင့်တင်စက်များလည်ပတ် ထုတ်လုပ်ခြင်း၊ သိုလှောင်ခြင်း၊ ထုတ်ပိုးခြင်း၊ ဓါတ်မြေဩဇာ စက်ရုံများ၊ ကိုယ်ပိုင်သုံးမီးစက်၊ ယာဉ်၊ စက်ယန္တရားများ အပါအဝင် အထွေထွေကုန်စည်များတင်သွင်းထားသိုနိုင်သည့် Warehouse စသည့်အဆောက်အဦများကိုဆောက်လုပ်၍ မြန်မာနိုင်ငံသား၊ နိုင်ငံခြား၊ ဖက်စပ်လုပ်ကိုင်ခြင်းကို လည်းကောင်း၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ အစိုးရက ထုတ်ပြန် ကြေငြာချက်အရ လည်းကောင်း ခွင့်ပြုထားသော စီးပွားရေးလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခြင်းကို ဆိုလိုခြင်းဖြစ်သည်။ **(BOT စာချုပ် အပိုဒ် ၁-၂)**<br>- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သည် ဖွံ့ဖြိုးအောင်ဖော်ထုတ်ထားသည့် မြေပေါ်တွင် ရင်းနှီးမြှုပ်နှံသူများမှ စီးပွားရေးလုပ်ငန်း ဆောင်တာများ အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန် MAGDPL အနေဖြင့် ထပ်ဆင့်ငှားရမ်းသည့်စာချုပ်များချုပ်ဆိုနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုချက် ရရှိအောင် ကူညီပံ့ပိုးပေးပါမည်။ **(BOT စာချုပ် အပိုဒ် ၆-၇)** |
| ၁၅။ | စိစစ်တင်ပြချက် | - မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သီလဝါဆိပ်ကမ်းဖွံ့ဖြိုးတိုးတက်ရေး စီမံကိန်းနေရာရှိ ဆိပ်ကမ်းမြေနေရာအား ငှားရမ်းသုံးစွဲ ခွင့်ပြုခြင်း အပေါ် လုပ်ငန်းဆောင်ရွက်ရန်အတွက် MAGDPL အားလယ်ယာထွက်ကုန်နှင့် ဆီထွက်သီးနှံများဖြစ်သည့် ပဲမျိုးစုံနှင့်နှမ်းစသည့် ကုန်ပစ္စည်းများအပါအဝင် ကောက်ပဲသီးနှံများကိုင်တွယ်နိုင်မည့် ဆိပ်ခံတံတား လုပ်ကိုင်ဆောင်ရွက်ရန်အတွက် အကွက်အမှတ်(၂၉)အား လုပ်ပိုင်ခွင့် နေရာသတ်မှတ်ပေးပြီးဖြစ်ပါကြောင်း ကော်မရှင်၏ ၂၃/၂၀၁၂ (၁-၈-၂၀၁၂) ကြိမ်မြောက် အစည်းအဝေးမှ စိစစ်ခဲ့ပြီးဖြစ်ပါသည်။ |

| | | |
|---|---|---|
| | | - MAGDPLမှ ဆိပ်ခံတံတားအမျိုးအစားအနေဖြင့် သံကူ ကွန် ကရစ်ဆိပ်ခံတံတား၊ အရွယ်အစား အနေဖြင့် မျက်နှာစာအလျား ၁၉၀ မီတာ၊ အကျယ် ၃၀ မီတာ၊ ကုန်ပစ္စည်းသိုလှောင်ရုံ ၄၀၀ ပေ X ၁၅၀ ပေ x ၂၅ ပေ အရွယ် (၅)လုံး၊ ကောက်ပဲသီးနှံသိုလှောင်သည့် Silo အနေဖြင့် အချင်း ၆၀ ပေ အရွယ်ရှိ Silo (၆)လုံးတည်ဆောက်မည်ဖြစ်ကြောင်း ပို့ဆောင်ရေးဝန်ကြီးဌာနမှ တင်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၄/မ-၁၅၁၁/၂၀၁၆( ၂၆၁ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၉ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Myanma Agricultural & General Development Public Limited (MAGDPL) မှ BOTစနစ်ဖြင့် လယ်ယာထွက်ကုန်နှင့် ဆီထွက်သီးနှံကုန်ပစ္စည်းများတင်ချခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာဆိပ်ခံတံတားနှင့် ဆက်စပ်သော စီးပွားရေးဆိုင်ရာ အဆောက်အဦများအားတည်ဆောက်၍ငှားရမ်းခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြခြင်းကိစ္စ**

၁။ Myanma Agricultural & General Development Public Limited (MAGDPL) မှ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ် (၂၉)၊ မြေဧရိယာ(၃၇.၀၆)ဧကတွင် BOTစနစ်ဖြင့် လယ်ယာထွက်ကုန်နှင့် ဆီထွက်သီးနှံကုန်ပစ္စည်းများတင်ချခေတ်မီ ဘက်စုံသုံးအပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတားနှင့်ဆက်စပ်သော စီးပွားရေးဆိုင်ရာ အဆောက်အဦများအားတည်ဆောက်၍ ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေဖြင့် လုပ်ကိုင်ခွင့်ပြုပါရန် ဦးထွန်းလွင် (အဘ-ဦးထျန်ပို့)မှ ပို့ဆောင်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကို ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၁/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ဆက်စပ်သော စီးပွားရေးဆိုင်ရာ အဆောက်အဦများ တည်ဆောက်ခြင်း ဆိုသည်မှာ ၁၃.၈၈ ဧက ကျယ်ဝန်းသော ကျောထောက်နောက်ခံမြေပေါ် တွင် ပဲမျိုးစုံ၊ ပြောင်း၊ နှမ်း၊ ကောက်ပဲသီးနှံနှင့် သွင်းကုန်ပစ္စည်းတို့ အား အဆင့်မြှင့်တင်သန့်စင်မည့် စက်များတပ်ဆင်ထားသည့် အဆောက်အဦများ၊ သိုလှောင်မည့် Bonded Warehouse များနှင့် Silo များအား တည်ဆောက်၍ငှားရမ်းခြင်း ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းအတွက် အသုံးပြုမည့်မြေ ၃၇.၀၆ ဧကအား အောက်ပါအတိုင်း ဧရိယာများ ခွဲခြားတည်ဆောက်မည်ဖြစ်ပါသည်-

| **စဉ်** | **အကြောင်းအရာ** | **မြေဧရိယာ** |
|---|---|---|
| ၁။ | Portion A, Cargo Yard Area | ၁၄.၅၅ ဧက |
| ၂။ | Portion B, Grain & Bean Processing Area | ၁၃.၈၈ ဧက |
| ၃။ | Portion C, Admin & Operation Area | ၈.၆၃ ဧက |
| | **စုစုပေါင်း** | **၃၇.၀၆ ဧက** |

၃။ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် နှင့် Myanma Agricultural & General Development Public Limited (MAGDPL)တို့ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီချုပ်ဆိုမည့် BOTစနစ်ဖြင့် မြေငှားရမ်းခြင်းစာချုပ်(မူကြမ်း)ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) လုပ်ငန်းလုပ်ကိုင်ခွင့်ကာလသက်တမ်းမှာကနဦး ၅၀ နှစ်နှင့် ကော်မရှင် ခွင့်ပြုချက်ဖြင့်တစ်ကြိမ်လျှင် ၁၀ နှစ်ဖြင့် ၂ ကြိမ် တိုးမြှင့်နိုင်သည်။ လုပ်ငန်းကနဦး သက်တမ်းစတင်မှုကို မြေငှားစာချုပ်အား စာချုပ်ဝင် နှစ်ဖက်လက်မှတ်ရေးထိုးသည့် နေ့မှစ၍ စတင်ရေတွက်သည်။

(ခ) မြေအသုံးချမှုပရီမီယံကြေးအတွက် မြေ ၁ ဧကလျှင် ကျပ် (၁၅)သန်း ဖြင့် စုစုပေါင်း ၃၇.၀၆ ဧကအတွက် ကျပ် ၅၅၅,၉၀၀,၀၀၀ ကို တစ်ဖက်ပါအတိုင်း ပေးချေရပါမည်-**(မြေငှားစာချုပ်အပိုဒ် ၂)**

(၁) ပထမအရစ်အဖြစ် မြေအသုံးချမှုပရီမီယံကြေး၏ ၅၀% ဖြစ်သော ကျပ် ၂၇၇,၉၅၀,၀၀၀ ကို မြေငှားစာချုပ်လက် မှတ် ရေးထိုးပြီး ရက်ပေါင်း ၃၀ အတွင်း ပေးချေရပါမည်။

(၂) ဒုတိယအရစ်အဖြစ် မြေအသုံးချမှုပရီမီယံကြေး၏ ၅၀% ဖြစ်သော ကျပ် ၂၇၇,၉၅၀,၀၀၀ ကို မြေငှားစာချုပ် လက်မှတ်ရေး ထိုးပြီး တစ်နှစ်အတွင်း ပေးချေရပါမည်။

(ဂ) နှစ်စဉ်မြေငှားရမ်းခ နှုန်းထားများမှာ ပဋိညာဉ်စာချုပ်၏ နောက်ဆက်တွဲ(ဂ)တွင် ဖော်ပြထားသည့်အတိုင်း စုစုပေါင်းဆိပ်ကမ်း အခွန်အခဝင်ငွေကို တွက်ချက်ပြီး စီမံကိန်း လုပ်ငန်းမှဝင်ငွေ ရရှိသည့်နေ့မှစ၍ မြေငှားရမ်းခကို အောက်ပါအတိုင်း ပေးချေရပါမည်-

(၁) ပထမနှစ်မှ (၁၀)နှစ်မြောက် အတွက် စုစုပေါင်း ဝင်ငွေ၏ ၆ %

(၂) (၁၁)နှစ်မှ (၂၀)နှစ်မြောက် အတွက် စုစုပေါင်း ဝင်ငွေ၏ ၁၂ %

(၃) (၂၁)နှစ်မှ (၃၅)နှစ်မြောက် အတွက် စုစုပေါင်း ဝင်ငွေ၏ ၁၈ %

(၄) (၃၆)နှစ်မြောက်နှင့်အထက် အတွက် စုစုပေါင်း ဝင်ငွေ၏ ၂၀ %

(ဃ) ငှားရမ်းခ နှုန်းထားများကို (၅)နှစ် တစ်ကြိမ် ပြန်လည် ပြင်ဆင်သတ်မှတ်ရန်နှင့် စာချုပ်ပြန်လည် ချုပ်ဆိုသည့်အခါ ကာလဒေသပေါက်ဈေးနှင့် နှစ်ဖက် ညှိနှိုင်း၍ လက်ရှိ စာချုပ်ပါ ငှားရမ်းခ၏ ၁၀ % ထက် မပိုသော နှုန်းထားဖြင့် ပြန်လည် ပြင်ဆင် သတ်မှတ်သွားမည် ဖြစ်ပါသည်။

(င) စီးပွားရေးလုပ်ငန်းဆောင်တာများ ဆိုသည်မှာ ဖော်ထုတ် ထားသော မြေပေါ်၌ "ကောက်ပဲသီးနှံ အဆင့်မြှင့်တင်စက်များလည်ပတ် ထုတ်လုပ်ခြင်း၊ သိုလှောင်ခြင်း၊ ထုတ်ပိုးခြင်း၊ ဓါတ်မြေဩဇာ စက်ရုံများ၊ ကိုယ်ပိုင် သုံးမီးစက်၊ ယာဉ်၊ စက်ယန္တရားများအပါအဝင်အထွေထွေကုန်စည်များ တင်သွင်းထားသိုနိုင်သည့် Warehouse

စသည့်အဆောက်အဦများကို ဆောက်လုပ်၍ မြန်မာနိုင်ငံသားနိုင်ငံခြား ဖက်စပ် လုပ်ကိုင်ခြင်းကိုလည်းကောင်း၊ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံအစိုးရက ထုတ်ပြန်ကြေငြာချက်အရလည်းကောင်း ခွင့်ပြုထားသော စီးပွားရေးလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခြင်းကို ဆိုလိုခြင်းဖြစ်သည်။ **(BOT စာချုပ် အပိုဒ် ၁-၂)**

(စ) မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သည် ဖွံ့ဖြိုးအောင်ဖော်ထုတ်ထားသည့် မြေပေါ်တွင် ရင်းနှီးမြှုပ်နှံသူများမှ စီးပွားရေးလုပ်ငန်း ဆောင်တာများ အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန် MAGDPL အနေဖြင့် ထပ်ဆင့် ငှားရမ်းသည့် စာချုပ်များချုပ်ဆိုနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အတည်ပြုချက်ရရှိအောင် ကူညီပံ့ပိုးပေးပါမည်။ **(BOT စာချုပ် အပိုဒ် ၆-၇)**

၄။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ကနဦး(၅၀)နှစ်နှင့် နောက်ထပ် ၁၀ နှစ် ၂ ကြိမ် တိုးမြှင့်မည်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ (၃)နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၂၈.၄၃၄၂ သန်း အပါအဝင် စုစုပေါင်း ကျပ်သန်း ၅၄၄၅၂.၇၃ ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | | |
|---|---|---|---|---|
| (က) | ငွေပမာဏ | ကျပ် | ၁၃၀၅.၉၀ | သန်း |
| (ခ) | စက်ပစ္စည်းများနှင့်လျှပ်စစ်ပစ္စည်းများ | ကျပ် | ၁၃၃၂.၇၀ | သန်း (US$ ၁၁.၁၁ သန်း) |
| (ဂ) | အဆောက်အဦ တန်ဖိုး | ကျပ် | ၂၃၃၇၉.၉၂ | သန်း(US$ ၁၇.၃၂၄၂သန်းအပါအဝင်) |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏ** | **ကျပ်** | **၅၄၄၅၂.၇၃** | **သန်း (US$ ၂၈.၄၃၄၂သန်းအပါအဝင်)** |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၇၈)ဦး ခန့်ထားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်း ဝန်ထမ်း(၁)ဦး၏အနိမ့်ဆုံး လစာမှာ US$ ၁၂၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၂၅၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ်(၆)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

**အမေရိကန် ၁ဒေါ်လာ=၁၀၀၀ ကျပ်**

| စဉ် | အကြောင်းအရာ | ရေတွက်ပုံ | ဝန်ဆောင်မှုပမာဏ | တစ်နှစ် ငှားရမ်းခနှုန်း (US$/Unit) | စုစုပေါင်း ဝင်ငွေ (US$) |
|---|---|---|---|---|---|
| (က) | General Cargo | Ton | ၇၂၀၀၀၀ | ၄.၇၃ | ၃၄၀၂၁၀၀ |
| (ခ) | Warehouse Rental | Acre | ၈ | ၆၉၅၀.၀၀ | ၅၅၅၉၈ |
| (ဂ) | Berth Hire | Vessel | ၂၉၂ | ၃၇၀ | ၁၀၈၀၄၀ |
| (ဃ) | Wharf age | Ton | ၅၇၆၀၀၀ | ၀.၀၂ | ၁၂၄၄၃ |
| (င) | Mooring/Un-mooring | Vessel | ၇၂ | ၁၄၇.၀၀ | ၁၀၅၈၄ |
| (စ) | Container Service | TEU | ၄၈၀၀၀ | ၈၀.၀၀ | ၃၈၄၀၀၀၀ |
| | **စုစုပေါင်း** | | | | ၇၄၂၈၅၆၅ |

၈။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | | US $ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၇.၄၃ |
| (ခ) | အသုံးစရိတ် | ၄.၇၆ |
| (ဂ) | အသားတင်အမြတ် | ၂.၆၇ |

၉။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ ၀.၃၅ သန်း နှင့် ညီမျှသော မြန်မာကျပ်ငွေ နှင့် ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၈၉ သန်း နှင့်ညီမျှသော မြန်မာကျပ်ငွေ ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၁၀)နှစ်(၁၀)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၉ % ဖြစ်ပါသည်။

၁၀။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း။

(၂) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၇၈)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ပါကြောင်း။

(၃) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သန်လျင်ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်း၊ မြေကွက်အမှတ်(၂၉)၊ မြေဧရိယာ (၃၇.၀၆)ဧက အား ပထမနှစ်မှ ၁၀ နှစ်အထိ စုစုပေါင်းဝင်ငွေ၏ ၆%၊ ၁၁ နှစ်မှ ၂၀နှစ် အထိ စုစုပေါင်းဝင်ငွေ၏ ၁၂ %၊ ၂၁ နှစ်မြောက်မှ ၃၅ နှစ်အထိ စုစုပေါင်းဝင်ငွေ၏ ၁၈ %၊ ၃၆ နှစ်အထက် စုစုပေါင်းဝင်ငွေ၏ ၂၀ % နိုင်ငံတော်မှ ရရှိမည်ဖြစ်ပါကြောင်းနှင့် ၅၀ နှစ် + ၁၀ နှစ် + ၁၀နှစ် စုစုပေါင်း နှစ်(၇၀)ငှားရမ်း လုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း။

(၄) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း။

(၅) ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၁ ရက်နေ့တွင်ကျင်းပသော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၏ (၃/၂၀၁၆)ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အပိုဒ် (၅၉) အရ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအားခွင့်ပြုသင့်ပါကြောင်း။

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)**

(၁) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏ (၁%) အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းများဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)ကို ဆောင်ရွက်ပြီး အစီရင်ခံစာ ရေးဆွဲတင်ပြရန်။

(၃) အထက်ပါ လေ့လာဆန်းစစ်မှုရလာဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုများ မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့်ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

**(ကုမ္ပဏီမှ အထက်ပါသဘောထားမှတ်ချက်နှင့်အညီ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက် မှု ဆန်းစစ်ချက် (Environmental and Social Impact Assessment - ESIA) အစီရင်ခံစာအား မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ Third Party အနေဖြင့်ဆောင်ရွက်၍ ရေးဆွဲကာ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေး ရာဝန်ကြီးဌာနသို့ (၈-၁-၂၀၁၆) ရက်စွဲပါစာဖြင့် ပေးပို့ထားပြီးပါသည်။)**

(ဂ) **ပို့ဆောင်ရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**

(၁) မြေဧရိယာ ၃၇.၀၆ ဧကရှိသည့်အနက် မြေဧရိယာ ၂၃.၁၈ဧကခန့် ကို ဆိပ်ကမ်းလုပ်ငန်းနှင့်သက်ဆိုင်သည့်အထောက်အကူပြုအဆောက်အအုံများကို အကောင်အထည်ဖော် ဆောင်ရွက်ရန် ရည်ရွယ်ထားပြီး မြစ်ကမ်းနေရာတွင် မျက်နှာစာအလျား ၁၉၀ မီတာ x အကျယ် ၃၀ မီတာအရွယ်ရှိ ပဲမျိုးစုံနှင့် နှမ်းစသည့် ကုန်ပစ္စည်းများကိုင်တွယ်နိုင်သည့်ခေတ်မီအပြည့်ပြည့်ဆိုင်ရာ ဆိပ်ခံတံတားတစ်စင်းကို အကောင်အထည်ဖော် ဆောင်ရွက်သွားရန် ရည်ရွယ်ထားကြောင်း။

(၂) စီမံကိန်းလုပ်ငန်းတစ်ခုလုံးကို(၃)နှစ်အတွင်း ပြီးစီးအောင် တည်ဆောက်သွားမည် ဖြစ်ပြီး ပထမအဆင့် စီမံကိန်းလုပ်ငန်းများကို ခွင့်ပြုချက်ရရှိပြီး ၁၈ လအတွင်း ပြီးစီးအောင်တည်ဆောက်သွားမည်ဖြစ်ကြောင်း။

(၃) စုစုပေါင်းဝင်ငွေတွက်ချက်ရာတွင် ပါဝင်သည့် မြေငှားရမ်းခဝင်ငွေ၌ စီးပွားရေးလုပ်ငန်းဆောင်တာများအတွက် လျာထားသည့် မြေ ၁၃.၈၈ ဧကခန့် အတွက်တစ်နှစ်မြေ ၁ ဧကကို ကျပ် ၆,၄၈၆,၄၉၀ နှုန်းဖြင့် စုစုပေါင်းကျပ် ၉၀,၀၃၂,၄၈၂ (သို့) ထပ်ဆင့် ငှားရမ်းခြင်းမှရရှိသည့် ဝင်ငွေအပေါ် သက်ဆိုင်ရာနှစ်အလိုက်သတ်မှတ် ရာခိုင်နှုန်းအရ ကျသင့်သည့်ငွေနှစ်ရပ်အနက်များရာကို ပေးဆောင်ရမည်ဖြစ်ကြောင်း။

(၄) ထပ်ဆင့်ငှားရမ်းခြင်းမရှိပါက ကျပ် ၉၀,၀၃၂,၄၈၂ ထည့်သွင်း တွက်ချက်၍ သက်ဆိုင်ရာနှစ်အလိုက် သတ်မှတ်ရာခိုင်နှုန်းထားအရ MPA သို့ ပေးဆောင်ရမည်ဖြစ်ကြောင်း။

(၅) MAGDPL သည် ကျောထောက်နောက်ခံမြေ ၁၃.၈၈ ဧကခန့် တွင် စီးပွားရေးဆိုင်ရာလုပ်ငန်းဆောင်တာများကို အကောင် အထည်ဖော်ရန် ဆောင်ရွက်ရန်ကော်မရှင်သို့ ထပ်မံတင်ပြ၍ ခွင့်ပြုချက်ရယူကာ အခြားရင်းနှီးမြှုပ်နှံသူများသို့ တစ်ဆင့်ငှားရမ်း ခွင့်ပြုရန် ဖြစ်ကြောင်း။

(၆) MAGDPL သည် အငှားချထားသည့် မြေနေရာတွင် လယ်ယာလုပ်ကိုင်လျက်ရှိသော လယ်သမားများအတွက် ကရုဏာ ထောက်ပံ့ကြေးငွေများကို ညှိနှိုင်းဆောင် ရွက်ပေးပြီးဖြစ်ကြောင်း။

(၇) ကော်မရှင်သို့ အဆိုပြုချက်အားတင်ပြရန်အတွက် ပို့ဆောင်ရေးဝန်ကြီး ဌာန၊ စီမံခန့်ခွဲမှုကော်မတီ အစည်းအဝေး ၁၉/၂၀၁၅ (၁၉-၁၁-၂၀၁၅) က သဘောတူခွင့်ပြုထားပြီးဖြစ်ကြောင်း။

(ဂ) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း** **(နောက်ဆက်တွဲ-ဃ)**

(၁) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် ရန်ကုန်တိုင်းတွင်တည်ဆောက်မည့် လယ်ယာထွက်ကုန်အပြည့်ပြည့်ဆိုင်ရာဆိပ်ခံတံတားနှင့် အထောက်အကူပြု အဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်း အတွက် တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့် အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း။

(၂) အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် တစ်ဖက်ပါ ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံပါကြောင်း-

| စဉ် | ပစ္စည်းအမျိုးအစား | MIC စာအုပ်ပါ အရေအတွက် | BQ တွင် ပါဝင်သော အရေအတွက် | ထောက်ခံတင်ပြသော အရေအတွက် |
|---|---|---|---|---|
| ၁။ | Cement | ၂၀၆၅၃ MT | ၂၀၆၅၃ MT | ၁၉၆၂၇ MT |
| ၂။ | Rebar | ၄၃၃၈ MT | ၄၃၃၈ MT | ၃၉၀၇ MT |
| ၃။ | PSC Pile Diameter 1000 mm | ၇၃၂၀ m | ၇၃၂၀ m | ၇၃၂၀ m |
| ၄။ | PSC Pile Diameter 900 mm | ၁၂၄၀ m | ၁၂၄၀ m | ၁၂၄၀ m |
| ၅။ | PSC Pile Diameter 800 mm | ၂၃၅၆ m | ၂၃၅၆ m | ၂၃၅၆ m |
| ၆။ | PSC Pile Diameter 600 mm | ၃၀၄၀၆ m | ၃၀၄၀၆ m | ၃၀၀၂၂ m |
| ၇။ | PSC Pile Diameter 500 mm | ၁၇၂၆၀ m | ၁၇၂၆၀ m | ၁၅၉၈၆ m |

MT = မက်ထရစ်တန်
M = မီတာ

(၃) ယခုတင်ပြသော စီမံကိန်းကို စိစစ်ရာတွင်တင်ပြသောဒီဇိုင်းများသည် အမှန်တကယ် အသေးစိတ် တည်ဆောက်မည့် ပုံစံ၊ ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည် ဆိုပါက ယခုတွက်ချက်ထားသော ပစ္စည်းအရေအတွက်များမှာ အမှန်တကယ် သုံးစွဲမည့်အရေအတွက်နှင့် ကွာခြားနိုင်ပါသဖြင့် လိုအပ်ပါက Detail Estimate ရရှိသည့်အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါကြောင်း (Subject to Check)

(၄) သက်ဆိုင်ရာ မီးသတ်ဦးစီးဌာနမှ ချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်း လိုက်နာမည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း။

**(ကုမ္ပဏီမှ မြန်မာနိုင်ငံ အင်ဂျင်နီယာ အသင်း၏ ထောက်ခံချက်နှင့်အညီ ပြည်ပမှ တင်သွင်းမည့် ဆောက်လုပ်ရေးပစ္စည်းများကို ၁၅-၂-၂၀၁၅ ရက်နေ့တွင် ပြင်ဆင်တင်ပြလာပါသည်။)**

၁၁။ ကျပ်ငွေ အထောက်အထားအဖြစ် Myanma Agricultural & General Development Public Limited အမည်ဖြင့် Co-Operative Bank LTD (CB Bank) ရှိ (၃၁-၃-၂၀၁၅) နေ့ ငွေလက် ကျန် ကျပ်၃,၃၄၅,၈၄၅,၀၈၄ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှု မရှိပါကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊ သက်ဆိုင်ရာဌာန/ အဖွဲ့အစည်းအစည်း အသီးသီးမှ ညွှန်ကြားချက်များကို သိရှိလိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။ မီးဘေး ကြိုတင်ကာကွယ်တားဆီးရေး စီမံချက်ကို တင်ပြထားပါသည်။

၁၃။ ဝန်ထမ်းများသက်သာချောင်ချိရေးအနေဖြင့် ဝန်ထမ်းများ အသွား/အပြန် ဖယ်ရီယာဉ် ကြို/ပို့ အခမဲ့စနစ်ဖြင့် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများအရေးပေါ် ကျန်းမာရေးအတွက် တက်ကျွမ်းသော သူနာပြုဆရာမ တစ်ဦးခန့်ထားပြီး လိုအပ်သော ဆေးဝါးအပြည့်အစုံ ထားရှိမည်ဖြစ်ကြောင်း၊ လုပ်ငန်းခွင်မတော်တဆထိခိုက်ဒဏ်ရာရရှိသော ဝန်ထမ်းများကိုလည်း ဆေးရုံ/ဆေးခန်းများသို့သွားရောက်ကုသပေးမည်ဖြစ်ကြောင်း၊ သန့်ရှင်းသော ထမင်း၊ ဟင်း မုန့်မျိုးစုံတို့အား လုပ်ငန်းခွင်ရှေ့တွင် ရောင်းချခွင့်ပြုထားပါကြောင်း၊ အချိန်ပိုဆင်းရသောနေ့များတွင် အချိန်ပိုကြေး နှင့် မုန့်ဖိုး ဝန်ထမ်းတစ်ဦးလျှင် ၅၀၀ ကျပ် ထောက်ပံ့သွားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများ၏ လစာ များကို လုပ်သက်/စည်းကမ်းအပေါ် မူတည်ကာ တိုးမြှင့်ခံစားစေရန် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ သန့်ရှင်း သော သောက်သုံးရေများ စီစဉ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ တင်ပြထားပါသည်။

၁၄။ ကုမ္ပဏီမှ CSR (Corporate Social Responsibility) အတွက် နှစ်စဉ်အသားတင်အမြတ်၏ ၁ % ကို သုံးစွဲရန် လျာထားပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၅။ လျှပ်စစ်ဓါတ်အား အသုံးပြုမှုနှင့် စပ်လျဉ်း၍ ၄၂ ကီလိုဝပ်နာရီသန်းပေါင်း နှင့် ဓါတ်ဆီ၊ ဒီဇယ်အင်ဂျင်စက်အင်အား ၆၂၀၀ ကီလိုဝပ် သုံးစွဲမည်ဖြစ်ပါသည်။

၁၆။ **စိစစ်တင်ပြချက်**

(က) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သီလဝါဆိပ်ကမ်းဖွံ့ဖြိုးတိုးတက်ရေး စီမံကိန်း နေရာရှိ ဆိပ်ကမ်းမြေနေရာအား ငှားရမ်းသုံးစွဲခွင့်ပြုခြင်းအပေါ် လုပ်ငန်းဆောင်ရွက်ရန်အတွက် MAGDPL အားလယ်ယာထွက်ကုန်နှင့် ဆီထွက်သီးနှံများဖြစ်သည့် ပဲမျိုးစုံနှင့်နှမ်းစသည့် ကုန် ပစ္စည်း များအပါအဝင် ကောက်ပဲသီးနှံများကိုင်တွယ်နိုင်မည့် ဆိပ်ခံတံတား လုပ်ကိုင်ဆောင်ရွက်ရန်အတွက် အကွက်အမှတ်(၂၉)အား လုပ်ပိုင်ခွင့်

နေရာသတ်မှတ်ပေးပြီးဖြစ်ကြောင်း ကော်မရှင်၏၂၃/၂၀၁၂(၁-၈-၂၀၁၂) ကြိမ်မြောက် အစည်းအဝေးမှ စိစစ်ခဲ့ပြီးဖြစ်ပါသည်။

(ခ) MAGDPLမှ ဆိပ်ခံတံတားအမျိုးအစားအနေဖြင့်သံကူကွန်ကရစ်ဆိပ်ခံတံတား၊ အရွယ်အစား အနေဖြင့် မျက်နှာစာအလျား ၁၉၀ မီတာ၊ အကျယ် ၃၀ မီတာ၊ ကုန်ပစ္စည်းသိုလှောင်ရုံ ၄၀၀ ပေ × ၁၅၀ ပေ × ၂၅ ပေ အရွယ် (၅)လုံး၊ ကောက်ပဲသီးနှံသိုလှောင်သည့် Silo အနေဖြင့် အချင်း ၆၀ ပေ အရွယ်ရှိ Silo (၆)လုံးတည်ဆောက်မည်ဖြစ်ကြောင်း ပို့ဆောင်ရေးဝန်ကြီးဌာနမှ တင်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။

၁၇။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ပုဒ်မ ၂၀ပါ(က၊ဂ၊စ၊ဆ၊ဇ၊ည)အရ အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို ကော်မရှင်သို့ တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ Myanma Agricultural & General Development Public Limited (MAGDPL)မှ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ် (၂၉)၊ မြေဧရိယာ(၃၇.၀၆)ဧကတွင် BOTစနစ်ဖြင့် လယ်ယာထွက်ကုန် အပြည်ပြည်ဆိုင်ရာဆိပ်ခံတံတားနှင့် အထောက်အကူပြုအဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ပို့ဆောင်ရေးဝန်ကြီးဌာနမှတစ်ဆင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အဆိုပြုချက်တင်ပြခြင်းကိစ္စအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန်သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-၁၇ ၁၁၄-1/1/2

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီ လ ၂၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၆. ၁. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက - ၄/မ-၁၅၁၁/၂၀၁၆(၀၁၁)

၁။ Myanmar Agricultural & General Development Public Limited (MAGDPL) မှ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၂၉)၊ မြေဧရိယာ (၃၇. ၀၆)ဧကတွင် BOT စနစ်ဖြင့် လယ်ယာထွက်ကုန်အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတားနှင့် အထောက်အကူပြု အဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား အမြဲတမ်းဝန်ထမ်း(၇၈)ဦးနှင့် နေ့စားဝန်ထမ်း(၃၀၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၂၉)၊ မြေဧရိယာ (၃၇. ၀၆)ဧကအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ မြေငှားရမ်းခနှုန်းကို Gross Revenue အပေါ် ရာခိုင်နှုန်းသတ်မှတ်ကောက်ခံရန် အကြောင်းကြားချက်အရ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ အောက်ပါအတိုင်း ဝင်ငွေပမာဏကို ကောက်ခံမည်ဖြစ်ပြီး ကနဦး(၅၀)နှစ်နှင့် နောက်ထပ်(၁၀)နှစ်(၂)ကြိမ် တိုးမြှင့်ခွင့်ဖြင့် စုစုပေါင်း(၇၀)နှစ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်-

| စဉ် | လုပ်ငန်းဆောင်ရွက်သောနှစ် | ငှားရမ်းခပေးသွင်းခြင်း |
|---|---|---|
| (၁) | ပထမနှစ်မှ (၁၀)နှစ်အထိ | စုစုပေါင်းဝင်ငွေ (Gross Revenue)၏၆% |
| (၂) | (၁၁)နှစ်မှ(၂၀)နှစ်အထိ | စုစုပေါင်းဝင်ငွေ (Gross Revenue)၏၁၂% |
| (၃) | (၂၁)နှစ်မှ(၃၅)နှစ်အထိ | စုစုပေါင်းဝင်ငွေ (Gross Revenue)၏၁၈% |

(၄) (၃၆)နှစ်မှ အထက် စုစုပေါင်းဝင်ငွေ (Gross Revenue)၏ ၂၀%
(အနည်းဆုံးနှစ်စဉ်စုစုပေါင်းဝင်ငွေကို ပဋိညာဉ်စာချုပ် နောက်ဆက်တွဲ(ဂ) အပိုဒ်ခွဲ-၃တွင် ဖော်ပြထားသည့်အတိုင်း ငွေကျပ် ၁၄၂,၇၀၂,၇၈၀/- ဟု တွက်ချက်ရပါမည်။)

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၂၁. ၁. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၅၉)အရ Myanmar Agricultural & General Development Public Limited (MAGDPL) ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလမ်းပန်းဆက်သွယ်ရေးဝန်ကြီး
ရန်ကုန်တောင်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
သန်လျင်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Myanmar Agricultural & General Development Public Limited (MAGDPL)
လက်ခံစာတွဲ
မျှောစာတွဲ

နောက်ဆက်တွဲ-ခ DG 103 26/1/16

ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်း အဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/MIC(OSS)/ECD/ ၀၁(၂၁/၁၆)
ရက် စွဲ ၊ ၂၀၁၆ခုနှစ် ဇန်နဝါရီလ ၂၅ ရက်

M3-166 25/1

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myanmar Agricultural & General Development Public Limited(MAGDPL) မှBOT စနစ်ဖြင့်လယ်ယာထွက်ကုန်အပြည့်ပြည် ဆိုင်ရာ ဆိပ်ခံတံတားနှင့်အထောက်အကူပြု အဆောက်အအုံများတည် ဆောက်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့် ပြုရန်တင်ပြလာခြင်းနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆-၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-၁၅၁၁ / ၂၀၁၆(၀၁၂)

၁။ Myanmar Agricultural & General Development Public Limited (MAGDPL) မှ ရန်ကုန်တိုင်းဒေသကြီး၊ သံလျှင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၂၉)၊ မြေဧရိယာ(၃၇.၀၆)ဧကတွင် မှ BOT စနစ်ဖြင့်လယ်ယာထွက်ကုန် အပြည့်ပြည့်ဆိုင်ရာဆိပ်ခံတံတားနှင့်အထောက်အကူပြုအဆောက်အအုံများ တည်ဆောက်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့်လုပ်ကိုင်ခွင့်ပြုပါရန်တင်ပြလာခြင်း ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦး(၅၀)နှစ်နှင့်(၁၀)နှစ် သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၃)နှစ်ဖြစ်ပြီး မြေဧရိယာ (၃၇.၀၆)ဧကရှိသည့်အနက်မှ မြေဧရိယာ(၂၃.၁၈)ဧကကို ဆိပ်ကမ်းလုပ်ငန်းနှင့်သက်ဆိုင်သည့် အထောက်အကူပြု အဆောက်အအုံများကို အကောင်အထည်ဖော်ဆောင်ရွက်ရန်ရည်ရွယ်ထား ပြီးကျန်မြေဧရိယာ(၁၃.၈၈)ဧကပေါ်တွင် လယ်ယာထွက်ကုန်ပစ္စည်းများပဲမျိုးစုံနှင့်နှမ်း စသည့် ဆီထွက်သီးနှံများနှင့်ဆက်စပ်သည့် စီးပွားရေးလုပ်ငန်းများနှင့် အထောက်အကူပြုအဆောက်

အဦးများအား အကောင်အထည်ဖော်တည်ဆောက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းခွင်သာယာရေးနှင့်သက်သာချောင်ချိရေးစီမံချက်၊ မီးဘေးကြိုတင်ကာကွယ်တားဆီးရေးစီမံချက်များကို ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏(၁%) အား လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility – CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့်ပတ်သက်၍ Myanmar Engineering Society (MES) သို့ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment-EIA) ဆောင်ရွက်ရန်အပ်နှံထားပြီးဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ Myanmar Agricultural & General Development Public Limited (MAGDPL) မှ ဆိပ်ခံတံတားနှင့်အထောက်အကူပြုအဆောက်အအုံများတည်ဆောက်ခြင်း လုပ်ငန်းများကြောင့်ထွက်ရှိလာမည့် အမှုန်အမွှားများဖုန်မှုန့်များကြောင့်လေထုညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊ စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်လေထု၊ မြေထုညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း စသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar Agricultural & General Development Public Limited (MAGDPL) မှ ဆိပ်ခံတံတားနှင့်အထောက်အကူပြုအဆောက်အအုံများ တည်ဆောက်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကိုလျော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာ အချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြပါရှိသောလူမှုရေးဆိုင်ရာတာဝန်ခံမှု(Corporate Social Responsibility – CSR)အတွက် အသားတင်အမြတ်ငွေ၏(၁%)အားအသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအားအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး( သို့မ

ဟုတ်) အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ( Initial Environmental Examination-IEE ) ကိုဆောင်ရွက်ပြီး အစီရင်ခံစာ ရေးဆွဲပြုစုတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုများမဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့်လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်( Environmental Manangement Plan-EMP ) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

နောက်ဆက်တွဲ-ဃ


# မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
# MYANMAR ENGINEERING SOCIETY
Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊ မအသ / MIC/၀၁၂၄ / ၂၀၁၆

ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ၊ ဖေဖော်ဝါရီလ ( ၄ )ရက်။

-257 8/2

P-170 8.2.16

အကြောင်းအရာ ။ **Myanma Agricultural & General Development Public Limited ၏ BOT စနစ်ဖြင့် လယ်ယာထွက်ကုန် အပြည်ပြည်ဆိုင်ရာဆိပ်ခံတံတားနှင့် အထောက်အကူပြု အဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်ကိစ္စ။**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆.၁.၂၀၁၆ ရက်စွဲပါ စာအမှတ် ၊ရက-၄/မ-၁၅၁၁/ ၂၀၁၆(၀၁၃)။

၁။ အထက်ပါအကြောင်းအရာနှင့် ပတ်သတ်၍ ရည်ညွှန်းချက်ပါစာအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့သက်ဆိုင်ရာMyanma Agricultural & General Development Public Limited မှ ရန်ကုန်တိုင်းဒေသကြီး ၊သန်လျင်ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၂၉)၊မြေဧရိယာ (၃၇.၀၆)ဧကတွင် BOT စနစ်ဖြင့် လယ်ယာထွက်ကုန် အပြည်ပြည်ဆိုင်ရာဆိပ်ခံတံတားနှင့် အထောက်အကူပြု အဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်း နှင့်ပတ်သတ်၍ လိုအပ်သော သဘောထားမှတ်ချက် ပေးရန် အကြောင်းကြားခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာသအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ သဘောထားမှတ်ချက်ပေးနိုင်ရေး အတွက် အပြည်ပြည်ဆိုင်ရာဆိပ်ခံတံတားနှင့် အထောက်အကူပြု အဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်း နှင့် ပတ်သတ်၍ Presentation ပြုလုပ်ရန်ဖိတ်ကြားချက်အရ Myanma Agricultural & General Development Public Limited မှ တာဝန် ရှိသူများမှ (၂၀-၁-၂၀၁၆) ရက်နေ့တွင် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း သို့ လာရောက်၍ စီမံကိန်း နှင့် ပတ်သတ်သော အချက်အလက်များကို ရှင်းလင်းတင်ပြခဲ့သည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း မှ MIC Projects Assessment Presentation Committee အဖွဲ့ဝင် များဖြစ်ကြသော ၊အတွင်းရေးမှူး ဦးကြည်လွင် ၊ အဖွဲ့ဝင် များဖြစ်ကြသော ဦးကျော်စန်းဝင်း၊ ဦးကိုကိုကြီး၊ဦးခင်မောင်ဝင်း၊ဦးခင်မောင်မောင် တို့ တက်ရောက်ခဲ့ကြပါသည်။

၄။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း တွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စ နှင့် ပတ်သက်၍ (၂၁.၁.၂၀၁၆) ရက်နေ့မှ (၂၉.၁.၂၀၁၆) ရက်နေ့ အထိ အဆောက်အဦအတွက် အသုံးပြုမည့် ဆောက်လုပ်ရေး ပစ္စည်း များကို စိစစ်သုံးသပ်ခဲ့ပါသည်။

၅။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင် ကျောက်တန်း နယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ တွင် BOT စနစ်ဖြင့် လယ်ယာထွက်ကုန် အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတား နှင့် အထောက်အကူပြု အဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများ နှင့် အညီ တည်ဆောက်ရန် နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေး ပစ္စည်း များ အသုံးပြု တည်ဆောက်ပါ က ကန့်ကွက်ရန် မရှိပါကြောင်း တင်ပြအပ်ပါသည်။

၆။ အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် အောက်ဖော်ပြပါ ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံတင်ပြအပ်ပါသည်။

| စဉ် | ပစ္စည်းအမျိုးအမည် | MIC စာအုပ်ပါ အရေအတွက် | BQ တွင်ပါဝင်သော အရေအတွက် | ထောက်ခံတင်ပြသော အရေအတွက် |
|---|---|---|---|---|
| ၁။ | Cement | ၂၀၆၅၃ MT | ၂၀၆၅၃ MT | ၁၉၆၂၇ MT |
| ၂။ | Rebar | ၄၃၃၈ MT | ၄၃၃၈ MT | ၃၉၁၇ MT |
| ၃။ | PSC Pile Diameter 1,000 mm | ၇၃၂၀ m | ၇၃၂၀ m | ၇၃၂၀ m |
| ၄။ | PSC Pile Diameter 900 mm | ၁၂၄၀ m | ၁၂၄၀ m | ၁၂၄၀ m |
| ၅။ | PSC Pile Diameter 800 mm | ၂၃၅၆ m | ၂၃၅၆ m | ၂၃၅၆ m |
| ၆။ | PSC Pile Diameter 600 mm | ၃၀၄၀၆ m | ၃၀၄၀၆ m | ၃၀၀၂၂ m |
| ၇။ | PSC Pile Diameter 500 mm | ၁၇၂၆၀ m | ၁၇၂၆၀ m | ၁၅၉၈၆ m |

MT = မက်ထရစ်တန် , m = မီတာ

မှတ်ချက်။ ။(၁) ယခု စီမံကိန်းကို စိစစ်ရာတွင် တင်ပြသောပုံစံ၊ဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ် တည်ဆောက်မည့် ပုံစံ၊ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့်အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက Detail Drawings မှ တွက်ချက်ထားသော Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

(၂) သက်ဆိုင်ရာမီးသတ်ဦးစီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ဝင်းခိုင်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

**မိတ္တူကို** –Managing Director, Myanma Agricultural & General Development Public Limited

– ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

– အတွင်းရေးမှူး၊ MIC Projects Assessment Committee

– ရုံးလက်ခံ / မျှောစာတွဲ

MIC Projects Assessment Committee
Myanmar Engineering Society

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပို့ဆောင်ရေးဝန်ကြီးဌာန
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
No. 10, Pansodan Street, Yangon, Myanmar. Tel: (95-1) 379141, 246375, 387116 Fax: (95-1) 391355, 384737.
P.O. Box. No. 1, Email: mpa@mptmail.net.mm, http://www.mpa.gov.mm

MB-206
29/1.

DDG 2/1/2
D/s 20
4/2/16

စာအမှတ်၊ ဆက/မြို့ပြ(MAGDPL)/ ၁၄၇ /၂၀၁၆
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၂၈ ရက်

သို့

**အဆိုပြုချက်စိစစ်ရေးအဖွဲ့**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သီလဝါဆိပ်ကမ်းဒေသတွင် ခေတ်မီအပြည့်ပြည့်ဆိုင်ရာ ဆိပ်ခံတံတားနှင့် စီးပွားရေးလုပ်ငန်းဆောင်တာများ၏ ဆက်စပ်အဆောက်အအုံများ အကောင်အထည်ဖော် တည်ဆောက်ကာ BOT စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန် တင်ပြထားခြင်းကိစ္စ။**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁၂-၁-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၄/မ-၁၅၁၁/၂၀၁၆(၀၂၈-ခ)

၁။ မြန်မာ့လယ်ယာထွက်ကုန်နှင့် အထွေထွေဖွံ့ဖြိုးတိုးတက်ရေးအများပိုင် လီမိတက် (Myanma Agricultural & General Development Public Limited - MAGDPL) မှ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက် အမှတ်(၂၉)၊ မြေဧရိယာ (၃၇.၀၆) ဧကတွင် BOT စနစ်ဖြင့် လယ်ယာထွက်ကုန် အပြည့်ပြည့်ဆိုင်ရာဆိပ်ခံတံတားနှင့်အထောက်အကူပြု အဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် လုပ်ကိုင်ခွင့်ပြုရန် ပို့ဆောင်ရေးဝန်ကြီးဌာနမှတစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြထားပါသည်။

၂။ ယင်းအဆိုပြုချက်အား ၅-၁-၂၀၁၆ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁/၂၀၁၆ အစည်းအဝေးက အောက်ပါအတိုင်းဆုံးဖြတ်ပါသဖြင့် အဆိုပါဆုံးဖြတ်ချက်အား ပြင်ဆင်ပြီးပါက ပြန်လည်တင်ပြရန်နှင့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအသစ်အဖြစ် ဆောင်ရွက်ရန်လက်ခံနိုင်သည့် လုပ်ငန်းဖြစ်ပါကြောင်း ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားထားပါသည် -

8/1
19/1

(က) လုပ်ငန်းအမျိုးအစားပြင်ဆင်တင်ပြရန်၊

(ခ) BOT စာချုပ်နှင့် မြေငှားစာချုပ် (မူကြမ်း)တို့ ပြန်လည်စိစစ်တင်ပြရန်၊

၃။ အထက်ပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြထားသည့် အဆိုပြုချက်ပါ မျက်နှာဖုံးစာရွက်တွင် "မြန်မာ့လယ်ယာထွက်ကုန်နှင့် အထွေထွေဖွံ့ဖြိုးတိုးတက်ရေး အများပိုင်လီမိတက်၏ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းတွင် ခေတ်မီဘက်စုံသုံးအပြည့်ပြည့်ဆိုင်ရာဆိပ်ခံတံတားနှင့် စီးပွားရေးလုပ်ငန်းဆောင်တာများ၏ ဆက်စပ် အဆောက်အအုံများကိုတည်ဆောက်၍ BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်" ဟူသော စာသား အစား **နောက်ဆက်တွဲ(က)** ပါအတိုင်း ပြင်ဆင်မည်ဖြစ်ပါသည်။

၄။ BOT စာချုပ်နှင့် မြေငှားစာချုပ် (မူကြမ်း) တို့တွင် လုပ်ငန်းလုပ်ကိုင်ခွင့်ကာလသက်တမ်း/ သဘောတူစာချုပ်သက်တမ်း/ မြေငှားစာချုပ်သက်တမ်း စတင်ရေတွက်ရမည့် သတ်မှတ်ချက်နှင့် ပတ်သက်၍ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ လမ်းညွှန်ချက်နှင့်အညီ ပဋိညာဉ်စာချုပ်အပိုဒ်(၁၂)၊ အပိုဒ်ခွဲ(၁၂-၂)တွင်လည်းကောင်း၊ မြေငှားစာချုပ်အပိုဒ်(၁)၊ မြေငှားရမ်းခြင်း၊ အပိုဒ်(၁၈)မြေငှား စာချုပ် စတင်အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းတို့တွင်လည်းကောင်း **နောက်ဆက်တွဲ(ခ)** ပါ အတိုင်း ပြင်ဆင်မည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

ဦးဆောင်ညွှန်ကြားရေးမှူး(ကိုယ်စား)
(မြသန်း၊ မြို့ပြအင်ဂျင်နီယာချုပ်)

မိတ္တူ
ပို့ဆောင်ရေးဝန်ကြီးဌာန

နောက်ဆက်တွဲ-ဂ

ပို့ဆောင်ရေးဝန်ကြီးဌာန ဝန်ကြီးရုံး ခွဲ(၁)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပို့ဆောင်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ် ၊ ၅၂- ပဆ/ ခွဲ(၁) ၂၀၁၅(Port)(၁၂/၂၇၇)
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၂၂ ရက်

အကြောင်းအရာ။ **သီလဝါဆိပ်ကမ်းဒေသတွင် ခေတ်မီအပြည့်ပြည်ဆိုင်ရာ ဆိပ်ခံတံတား နှင့် စီးပွားရေးလုပ်ငန်းဆောင်ကာများ၏ ဆက်စပ်အဆောက်အအုံများ အကောင်အထည်ဖော် တည်ဆောက်ကာ BOT စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန် ကိစ္စ**

၁။ နိုင်ငံတော်၏ စိုက်ပျိုးရေးလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်လာစေရေးနှင့် တောင်သူလယ်သမားများ၏ အကျိုးစီးပွားဖြစ်ထွန်းလာစေမည့် အဆောက်အအုံများ အကောင်အထည်ဖော် ဆောင်ရွက်ရန် သီလဝါ ဆိပ်ကမ်းဒေသရှိ မြေကွက်အမှတ် (၂၉)တွင် လယ်ယာထွက်ကုန် နှင့် ဆီထွက်သီးနှံများဖြစ်သည့် ပဲမျိုးစုံနှင့် နှမ်းစသည့် ကုန်ပစ္စည်းများ ကိုင်တွယ်နိုင်မည့် ခေတ်မီအပြည့်ပြည်ဆိုင်ရာ ဆိပ်ခံတံတား နှင့် အထောက် အကူပြု အဆောက်အအုံများ တည်ဆောက်ကာလုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန် မြန်မာ့လယ်ယာထွက်ကုန်နှင့် အထွေထွေဖွံ့ဖြိုးတိုးတက်ရေးအများပိုင်လီမိတက် (Myanma Agricultural & General Development Public Limited- MAGDPL) မှ **နောက်ဆက်တွဲ(က)** ပါစာဖြင့် တင်ပြထားပါသည်။

၂။ MAGDPL အား လယ်ယာထွက်ကုန် နှင့် ဆီထွက်သီးနှံများဖြစ်သည့် ပဲမျိုးစုံ နှင့် နှမ်း စသည့် ကုန်ပစ္စည်းများအပါအဝင် ကောက်ပဲသီးနှံများ ကိုင်တွယ်နိုင်မည့် ဆိပ်ခံတံတား လုပ်ကိုင်ဆောင်ရွက်ရန် အတွက် အကွက်အမှတ် (၂၉)အား သတ်မှတ်ပေးပြီးဖြစ်ပါကြောင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် မှ **နောက်ဆက်တွဲ(ခ)** ပါစာဖြင့် အကြောင်းကြားထားပါသည်။

၃။ အဆိုပါ သီလဝါဆိပ်ကမ်းဒေသရှိ မြေကွက်အမှတ် (၂၉)မှာ မျက်နှာစာ အလျား ၂၀၀ မီတာ x အကျယ် ၇၅၀ မီတာအရွယ်ရှိပြီး စုစုပေါင်း ဧရိယာအားဖြင့် ၃၇.၀၆ ဧက ရှိပါသည်။ ၎င်းမြေဧရိယာ ၃၇.၀၆ ဧကရှိသည့်အနက် မြေဧရိယာ ၂၃.၁၈ ဧကခန့်ကို ဆိပ်ကမ်းလုပ်ငန်းနှင့် သက်ဆိုင်သည့် အထောက်အကူပြု အဆောက်အအုံများကို အကောင်အထည်ဖော် ဆောင်ရွက်ရန် ရည်ရွယ်ထားပြီး အဆိုပါ ဆိပ်ကမ်းမြေနေရာကို ကျောထောက်နောက်ခံပြု၍ မြစ်ကမ်းနဖူးတွင် မျက်နှာစာအလျား ၁၉၀ မီတာ x အကျယ် ၃၀ မီတာအရွယ်ရှိ လယ်ယာထွက်ကုန်နှင့် ဆီထွက်သီးနှံများဖြစ်သည့် ပဲမျိုးစုံ နှင့် နှမ်း စသည့် ကုန်ပစ္စည်းများ ကိုင်တွယ်နိုင်မည့် ခေတ်မီအပြည့်ပြည်ဆိုင်ရာ ဆိပ်ခံတံတားတစ်စင်းကို အကောင် အထည်ဖော် တည်ဆောက်ရန် ရည်ရွယ်ထားကြောင်း တင်ပြထားပါသည်။

\\Motdata\D\KHWE-I (WATER TRANSPORT)\2015\MPA\52-PA SA (PORT).Doc

၄။ ထို့အပြင် ကျန်မြေဧရိယာ (၁၃.၈၈) ဧကခန့်ပေါ်တွင် စီးပွားရေးလုပ်ငန်းဆောင်တာများ (Commercial Activities) ဖြစ်သော လယ်ယာထွက်ကုန်ပစ္စည်းများ၊ ပဲမျိုးစုံ၊ နှမ်း စသည့် ဆီထွက်သီးနှံများနှင့်ဆက်စပ်သည့် စီးပွားရေးလုပ်ငန်းများနှင့် အထောက်အကူပြုအဆောက်အအုံများ အကောင်အထည်ဖော် တည်ဆောက်ထားရန် ရည်ရွယ်ထားကြောင်း တင်ပြထားပါသည်။

၅။ MAGDPLအနေဖြင့် စီမံကိန်းလုပ်ငန်းအတွက် မြန်မာကျပ်ငွေ ၂၅,၄၆၉.၂၆၂ သန်းနှင့် အမေရိကန်ဒေါ်လာ ၂၈.၉၈၃၄ သန်း ရင်းနှီးမြှုပ်နှံဆောင်ရွက်သွားမည်ဖြစ်ကြောင်း နှင့် အဆိုပါ စီမံကိန်းလုပ်ငန်းတစ်ခုလုံးကို (၃)နှစ်အတွင်း ပြီးစီးအောင် တည်ဆောက်သွားမည်ဖြစ်ပြီး ပထမအဆင့် စီမံကိန်းလုပ်ငန်းများကို ခွင့်ပြုချက်ရရှိပြီး (၁၈)လအတွင်း ပြီးစီးအောင် တည်ဆောက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၆။ MAGDPL သည် အောက်ဖော်ပြပါ ခေတ်မီအပြည့်ပြည့်ဆိုင်ရာဆိပ်ခံတံတား နှင့် ဆိပ်ကမ်းလုပ်ငန်းဆိုင်ရာ အထောက်အကူပြုအဆောက်အအုံများ တည်ဆောက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်-

| | | | |
|---|---|---|---|
| (က) | ဆိပ်ခံတံတားတည်နေရာ | - | ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ |
| (ခ) | မြေကွက်အမှတ် | - | မြေကွက်အမှတ်(၂၉) |
| (ဂ) | မြေကွက်အရွယ်အစား | - | မျက်နှာစာအလျား ၂၀၀ မီတာ၊ အကျယ် ၇၅၀ မီတာ<br>(ဧရိယာ ၃၇.၀၆ ဧက) |
| (ဃ) | ဆိပ်ခံတံတားအမျိုးအစား | - | သံကူကွန်ကရစ်ဆိပ်ခံတံတား |
| (င) | ဆိပ်ခံတံတားအရွယ်အစား | - | မျက်နှာစာအလျား ၁၉၀ မီတာ၊ အကျယ် ၃၀ မီတာ |
| (စ) | ကုန်ပစ္စည်းသိုလှောင်ရုံ | - | ၄၀၀ ပေ x ၁၅၀ ပေ x ၂၅ ပေ အရွယ်(၅)လုံး |
| (ဆ) | ကောက်ပဲသီးနှံသိုလှောင်သည့် Silo | - | အချင်း ၆၀ ပေအရွယ်ရှိ Silo (၆)လုံး |
| (ဇ) | မြေငှားကာလ/လုပ်ငန်းလုပ်ကိုင်ခွင့်ကာလ | - | ကနဦး (၅၀)နှစ်နှင့် နောက်ထပ်(၁၀) နှစ် (၂)ကြိမ် တိုးမြှင့်ခွင့်ဖြင့် စုစုပေါင်း (၇၀) နှစ် |

၇။ MAGDPL အနေဖြင့် သီလဝါဆိပ်ကမ်းဒေသရှိ ဧရိယာအားဖြင့် ၃၇.၀၆ ဧကအကျယ်အဝန်းရှိ မြေကွက်အမှတ် (၂၉)အား ငှားရမ်းခြင်းအတွက် မြေအသုံးချမှု ပရီမီယံကြေးအဖြစ် မြေတစ်ဧကလျှင်

ငွေကျပ် (၁၅၀)သိန်းနှုန်းဖြင့် စုစုပေါင်းကျသင့်ငွေကျပ် ၅၅၅,၉၀၀,၀၀၀/- ကို အရစ်(၂)ရစ်ခွဲ၍ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ထံ ပေးသွင်းစေရမည် ဖြစ်ပါသည်။

၈။ ထို့အပြင် ငှားရမ်းမည့် မြေနှင့်ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လစဉ်မြေငှားရမ်းခကို စုစုပေါင်းဝင်ငွေ (Gross Revenue) အပေါ် နှစ်အပိုင်းအခြားအလိုက် တစ်ဆထက်တစ်ဆ တိုးမြှင့်၍ ပေးဆောင်စေမည် ဖြစ်ပါသည် -

| | လုပ်ငန်းဆောင်ရွက်သောနှစ် | ငှားရမ်းခပေးဆောင်ရမည့် နှုန်းထား (စုစုပေါင်းဝင်ငွေအပေါ်) |
|---|---|---|
| (က) | ပထမနှစ်မှ (၁၀) နှစ်မြောက်အထိ | ၆ % |
| (ခ) | (၁၁) နှစ်မှ (၂၀) နှစ်မြောက်အထိ | ၁၂ % |
| (ဂ) | (၂၁) နှစ်မှ (၃၅) နှစ်မြောက်အထိ | ၁၈ % |
| (ဃ) | (၃၆) နှစ်မြောက်မှ အထက် | ၂၀ % |

၉။ ထိုကဲ့သို့ စုစုပေါင်းဝင်ငွေ (Gross Revenue) တွက်ချက်ရာတွင် သင်္ဘောဆိုက်ကပ်ခ၊ တံတားဖြတ်သန်းခ၊ ကုန်စည်သိုလှောင်ခ၊ ကုန်နှောင့်နှေးကြန့်ကြာကြေး ဝင်ငွေ၊ ကုန်ကိုင်တွယ်မှုလုပ်ငန်းများမှ ရရှိသည့်ဝင်ငွေများ၊ မြေငှားရမ်းခဝင်ငွေများ နှင့် စီမံကိန်းနှင့်ဆက်စပ်လုပ်ငန်းများ ဆောင်ရွက်ခြင်းမှ ရရှိသည့် အခြားဝင်ငွေများ အားလုံးပါဝင်မည် ဖြစ်ပါသည်။

၁၀။ စုစုပေါင်းဝင်ငွေ (Gross Revenue) တွက်ချက်ရာတွင် ပါဝင်သည့် မြေငှားရမ်းခဝင်ငွေ၌ စီးပွားရေးလုပ်ငန်း ဆောင်တာများ (Commercial Activities) ဆောင်ရွက်ရန် လျာထားသည့် မြေဧရိယာ (၁၃.၈၈)ဧကခန့်အတွက် တစ်နှစ်လျှင် မြေတစ်ဧကကို ငွေကျပ် ၆,၄၈၆,၄၉၀.၀၀ နှုန်းဖြင့် တွက်ချက်ရရှိသည့် စုစုပေါင်းငွေပမာဏ ကျပ် ၉၀,၀၃၂,၄၈၂.၀၀ (သို့မဟုတ်) ရင်းနှီးမြှုပ်နှံသူများ ထံ အမှန်တကယ် ထပ်ဆင့်မြေငှားရမ်းခြင်းမှ ရရှိသည့် ဝင်ငွေအပေါ်တွင် သက်ဆိုင်ရာ နှစ်အလိုက် သတ်မှတ်ရာခိုင်နှုန်းအရကျသင့်သည့်ငွေ ထိုငွေပမာဏနှစ်ရပ်အနက်များရာအပေါ် တွက်ချက်ပေး ဆောင်စေမည် ဖြစ်ပါသည်။ ထိုကဲ့သို့ သတ်မှတ်ထားခြင်းမှာ MAGDPL အနေဖြင့် ရင်းနှီးမြှုပ်နှံသူများထံ ထပ်ဆင့်မြေငှားရမ်းနိုင်ခြင်း မရှိပါက ပုံမှန် မြေငှားရမ်းခ ဝင်ငွေအဖြစ် ငွေကျပ် ၉၀,၀၃၂,၄၈၂.၀၀ ထည့်သွင်းတွက်ချက်၍ သက်ဆိုင်ရာ နှစ်အလိုက် သတ်မှတ်ရာခိုင်နှုန်းထားအရ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ပေးဆောင်စေမည် ဖြစ်ပါသည်။

၁၁။ MAGDPL အား လုပ်ငန်းလုပ်ကိုင်ခွင့်ပြုခြင်း နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ငန်းလုပ်ကိုင်ခွင့်ကာလ/ မြေငှားကာလကို ကနဦး (၅၀)နှစ်နှင့် နောက်ထပ်သက်တမ်းတစ်ကြိမ်လျှင် (၁၀)နှစ်နှင့် သက်တမ်း (၂)ကြိမ် တိုးမြှင့်ခွင့်ပြုရန် ဖြစ်ပါသည်။

၄-၂ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် လုပ်ငန်းလုပ်ဆောင်နိုင်ရန်အတွက် ကြွေးမြီကင်းရှင်းသော၊ ပစ္စည်းအဖြစ်အာမခံထားၡ၍ ငွေကြေးချေးငှားမှုကင်းရှင်းသော၊ လျော်ကြေးစသည့် ပေးဆပ်ဖွယ်ရာမှန်သမျှ ကင်းရှင်းသောမြေကို အလွတ်လက်ရောက်ပေးပါမည်။

၅။ **မြေအသုံးချမှုပရီမီယံကြေးပေးချေခြင်းနှင့် မြေငှားရမ်းခြင်းဆိုင်ရာ စည်းမျဉ်းစည်းကမ်းများ**

**မြေအသုံးချမှုပရီမီယံကြေး**

၅-၁ **MAGDPL** နှင့် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**တို့ ကတိကဝတ်ပြုထားသော ဤသဘောတူစာချုပ်အရ **MAGDPL** သည် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သို့ ဤစာချုပ်တွင်ဖော်ပြပါ မြေအသုံးချခြင်းအတွက် မြေတစ်ဧကလျှင်ငွေကျပ် ၁၅,၀၀၀,၀၀၀(ကျပ် တစ်ဆယ့်ငါးသန်း)နှုန်းဖြင့် စုစုပေါင်း ၃၇. ၀၆ ဧကအတွက် မြေအသုံးချမှုပမီယံကြေးအဖြစ်ငွေကျပ် ၅၅၅,၉၀၀,၀၀၀ (ကျပ် ငါးရာငါးဆယ်ငါးသန်းကိုးသိန်း တိတိ) ကို အောက်ပါအတိုင်း ပေးချေသွားမည်ဖြစ်ပါသည် -

(က) ပထမအရစ်အဖြစ် မြေအသုံးချမှုပရီမီယံကြေး၏ ၅၀% ဖြစ်သော ငွေကျပ် ၂၇၇,၉၅၀,၀၀၀ (ကျပ် နှစ်ရာခုနှစ်ဆယ်ခုနှစ်သန်း ကိုးသိန်းငါးသောင်း တိတိ) ကို ဤစာချုပ် လက်မှတ်ရေးထိုးပြီး ရက်ပေါင်း (၃၀) အတွင်းပေးချေရမည်။

(ခ) ဒုတိယအရစ်အဖြစ် မြေအသုံးချမှုပရီမီယံကြေး၏ ၅၀% ဖြစ်သော ငွေကျပ် ၂၇၇,၉၅၀,၀၀၀ (ကျပ် နှစ်ရာခုနှစ်ဆယ်ခုနှစ်သန်း ကိုးသိန်းငါးသောင်း တိတိ) ကို ဤစာချုပ် လက်မှတ်ရေးထိုးပြီး တစ်နှစ်အတွင်းပေးချေရမည်။

**နှစ်စဉ်ငှားရမ်းခ**

၅-၂ ငှားရမ်းသည့် မြေနှင့်ပတ်သက်၍ **MAGDPL** သည် ဤစာချုပ်၏ **နောက်ဆက်တွဲ(ဂ)**တွင် ဖော်ပြထားသည့်အတိုင်း စုစုပေါင်းဝင်ငွေကိုတွက်ချက်ပြီး **MAGDPL** က စီမံကိန်းလုပ်ငန်းမှ ဝင်ငွေစတင်ရရှိသည့်နေ့မှစ၍ နှစ်စဉ်ငှားရမ်းခကို အောက်ပါအတိုင်း တွက်ချက်ပေးဆောင်ရပါမည်-

| **လုပ်ငန်းဆောင်ရွက်သောနှစ်** | **ငှားရမ်းခငွေပေးသွင်းခြင်း** |
|---|---|
| (က) ပထမနှစ်မှ (၁၀)နှစ်မြောက် | စုစုပေါင်းဝင်ငွေ၏ ၆% |
| (ခ) (၁၁)နှစ်မှ (၂၀)နှစ်မြောက် | စုစုပေါင်းဝင်ငွေ၏ ၁၂% |
| (ဂ) (၂၁)နှစ်မှ (၃၅)နှစ်မြောက် | စုစုပေါင်းဝင်ငွေ၏ ၁၈% |
| (ဃ) (၃၆)နှစ်မြောက်မှ အထက် | စုစုပေါင်းဝင်ငွေ၏ ၂၀% |

(အနည်းဆုံးနှစ်စဉ်စုစုပေါင်းဝင်ငွေကို **နောက်ဆက်တွဲ(ဂ)အပိုဒ်ခွဲ-၃** တွင် ဖော်ပြထားသည့်အတိုင်း ငွေကျပ် ၉၀,၀၃၂,၄၈၂/-ဟု တွက်ချက်ရပါမည်။)

ပထမနှစ်အပါအဝင် သက်ဆိုင်ရာဘဏ္ဍာရေးနှစ်အတွက် ငှားရမ်းခကြိုတင်ပေးငွေကို အဆိုပါဘဏ္ဍာရေးနှစ်၏ နောက်ဘဏ္ဍာရေးနှစ် ဧပြီလ(၃၀)ရက်နေ့ထက်နောက်မကျစေဘဲ

ကြိုတင်ပေးထားရပါမည်။ အဆိုပါကြိုတင်ပေးငွေကို သက်ဆိုင်ရာဘဏ္ဍာရေးနှစ်အတွက် **MAGDPL** ၏ စာရင်းစစ်ဆေးခြင်းမပြုရသေးသော စုစုပေါင်းဝင်ငွေအပေါ် အခြေခံ၍ ပေးရပါမည်။ နှစ်စဉ်ငှားရမ်းခ အပြီးသတ်ပေးချေမှုကို သက်ဆိုင်ရာဘဏ္ဍာရေးနှစ်အတွက် စာရင်းစစ်ဆေးပြီး ဘဏ္ဍာရေးရှင်းတမ်းထွက်ပြီးနောက် ဩဂုတ်လ(၃၀)ရက်နေ့ထက် နောက်မကျစေဘဲ အပြီးသတ်ပေးချေရပါမည်။

၅-၃ အထက်စာပိုဒ် ၅-၁ ပါ သတ်မှတ်ချက်အတိုင်း မြေအသုံးချမှုပရီမီယံကြေး ပေးဆောင်ရန် ပျက်ကွက်လျှင်သော်လည်းကောင်း၊ အထက်စာပိုဒ် ၅-၂ ပါ သတ်မှတ်ချက်အတိုင်း နှစ်စဉ်မြေငှားရမ်းခ ပေးဆောင်ရန် ပျက်ကွက်လျှင်သော်လည်းကောင်း ဤစာချုပ်၏ အပိုဒ် ၁၆ (က) အရ စာချုပ်ကို ရပ်စဲနိုင်သည်။

၆။ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ တာဝန်ဝတ္တရားများ**

၆-၁ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် **MAGDPL** နှင့် ယှဉ်းခန့်ထားသော ကန်ထရိုက်တာများ၊ တစ်ဆင့်ခံကန်ထရိုက်တာများအနေဖြင့် စီမံကိန်းလုပ်ငန်းအတွက် ဆောက်လုပ်ရေးပစ္စည်းများနှင့် ဆောက်လုပ်ရေးဆိုင်ရာ ပစ္စည်းကိရိယာတန်ဆာပလာများနှင့်တကွ လိုအပ်သော သက်ဆိုင်ရာပစ္စည်းများတင်သွင်းခြင်း၊ ပြည်ပသို့ ပြန်လည်တင်ပို့ခြင်းများ(လိုအပ်ပါက)ကို အစိုးရအဖွဲ့နှင့် သက်ဆိုင်ရာအဖွဲ့အစည်းများက ခွင့်ပြုချက်ပေးရန်၊ အခွန်များ(သို့)အခကြေးငွေများ(သို့)အကောက်ခွန်များ ကင်းလွတ်ခွင့်ဖြင့်တင်သွင်းရန်၊ ပြည်ပတင်သွင်း/တင်ပို့ခွင့်ရရှိနိုင်ရန်အတတ်နိုင်ဆုံးကြိုးပမ်းဆောင်ရွက်ပေးရပါသည်။ သို့ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေနှင့် ငြိစွန်းမှုမရှိစေရပါ။

၆-၂ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် ဤစာချုပ်ဖြစ်မြောက်အောင်မြင်ရေးအတွက် သက်ဆိုင်ရာအစိုးရအာဏာပိုင်များထံမှ လိုအပ်သောထောက်ခံအတည်ပြုချက်များရရှိအောင် အကောင်းဆုံးကြိုးပမ်းဆောင်ရွက်ပေးပါမည်။

၆-၃ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် **MAGDPL** ၏လုပ်ငန်းတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ အခါအားလျော်စွာတည်ရှိသည့် အခြားသက်ဆိုင်သည့် ဥပဒေများအရ အခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်များရရှိစေရေးအတွက် အကောင်းဆုံးကူညီပံ့ပိုးဆောင်ရွက်ပေးပါမည်။

၆-၄ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် ဆိပ်ခံတံတားတည်ဆောက်ခြင်း၊ စီမံခန့်ခွဲခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းများတွင် ပါဝင်ဆောင်ရွက်ရန်ဖြစ်စေ၊ ဤစာချုပ်အရ အခြားစီးပွားရေးလုပ်ငန်းဆောင်တာများ ဆောင်ရွက်ရန်ဖြစ်စေ မြန်မာနိုင်ငံသို့လာရောက်ခြင်း၊ နေထိုင်ခြင်း၊ ပြန်လည်ထွက်ခွာခြင်းပြုသည့် နိုင်ငံခြားသားများအတွက်ဗီဇာရရှိရေး၊ ကာလရှည်နေထိုင်ခွင့်နှင့် အလုပ်လုပ်ခွင့်များကို သက်ဆိုင်ရာအာဏာပိုင်များထံမှခွင့်ပြုချက်ရရှိရန် **MAGDPL** အား အကောင်းဆုံး ကြိုးပမ်းဆောင်ရွက်ပေးပါမည်။

၆-၅ တည်ဆဲမြန်မာနိုင်ငံ၏ဥပဒေများနှင့်အညီ **MAGDPL** နှင့် ပူးပေါင်းဆောင်ရွက်မည့် နိုင်ငံခြားသားရင်းနှီးမြှုပ်နှံသူများအနေဖြင့် ၎င်းတို့၏ နိုင်ငံခြားငွေများအား နိုင်ငံခြားသို့ ပြန်လည်ယူဆောင်ခွင့်ရရှိနိုင်ရေးအတွက် သက်ဆိုင်ရာအာဏာပိုင်များထံမှ ခွင့်ပြုချက်ရရှိအောင် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် အကောင်းဆုံးကြိုးပမ်းဆောင်ရွက်ပေးပါမည်။

၆-၆ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် ဖွံ့ဖြိုးအောင်ဖော်ထုတ်ထားသည့်မြေကို **MAGDPL** မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ဖြင့် အခြားရင်းနှီးမြှုပ်နှံသူများကို ထပ်ဆင့်ငှားရမ်းသည့် စာချုပ်များချုပ်ဆို၍ လုပ်ကိုင်ခွင့်ပေးရန်အတွက် ပံ့ပိုးကူညီပေးရန် တာဝန်ယူပါမည်။

၆-၇ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် ဖွံ့ဖြိုးအောင်ဖော်ထုတ်ထားသည့် မြေပေါ်တွင်ရင်းနှီးမြှုပ်နှံသူများမှ စီးပွားရေးလုပ်ငန်းဆောင်တာများ အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန် **MAGDPL** အနေဖြင့် ထပ်ဆင့်ငှားရမ်းသည့် စာချုပ်များချုပ်ဆိုရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အတည်ပြုချက်ရရှိနိုင်အောင် ကူညီပံ့ပိုးဆောင်ရွက်ပေးပါမည်။

၆-၈ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် **MAGDPL** သို့မဟုတ် ၎င်း၏တစ်ဆင့်ခံ လက်အောက်ခံကုမ္ပဏီများ၊ ပူးပေါင်းဆောင်ရွက်သည့် ကုမ္ပဏီများသည် နိုင်ငံသားရင်းနှီးမြှုပ်နှံသူများဖြစ်ပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်သွားရန်နှင့် နိုင်ငံခြားသား ရင်းနှီးမြှုပ်နှံသူများဖြစ်ပါက နိုင်ငံခြားသား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်သွားရန် ခွင့်ပြုပေးမည်ဖြစ်ပါသည်။

၆-၉ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် **MAGDPL** အား ဆိပ်ကမ်းနယ်မြေပေါ်တွင် ၎င်း၏ စီးပွားရေးလုပ်ငန်းဆောင်တာများနှင့်သက်ဆိုင်သည့် ကုန်စည်များအား ကုန်သေတ္တာများတွင်ထည့်သွင်းဆောင်ရွက်ထားသည့် ကုန်သေတ္တာတင်/ချခြင်းလုပ်ငန်းများ ဆောင်ရွက်ခြင်းကို ခွင့်ပြုမည်ဖြစ်ပါသည်။

၆-၁၀ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် နောက်ထပ်အခြားသူများအား သီလဝါဆိပ်ကမ်းဒေသတွင် ကုန်သေတ္တာတင်/ချလုပ်ငန်း လုပ်ကိုင်သူအသစ်အဖြစ်ပေးအပ်ရန် စဉ်းစားသည့်အခါ **MAGDPL** အား ကုန်သေတ္တာတင်/ချခြင်းလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုရမည်။

၆-၁၁ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် ဖွံ့ဖြိုးအောင်ဖော်ထုတ်ထားသည့်မြေပေါ်တွင် ရင်းနှီးမြှုပ်နှံသူများမှ ဤစာချုပ်ပါ စီးပွားရေးလုပ်ငန်းဆောင်တာများကိုဆောင်ရွက်ရန်အတွက် ခွင့်ပြုမိန့်ရရှိအောင် အကောင်းဆုံးကြိုးပမ်းဆောင်ရွက်ပေးပါမည်။

၆-၁၂ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် **MAGDPL** အတွက် ကုန်တင်/ချစခန်းများတည်ဆောက်ခြင်း၊ အကောက်ခွန်နှင့် လူဝင်မှုကြီးကြပ်ရေးစစ်ဆေးရေးစခန်းများထားရှိခြင်း၊ အခွန်ဆောင်ကုန်သိုလှောင်ရုံများတည်ဆောက်ခြင်း၊ အကောက်ခွန်ရှင်းလင်းရေးဌာနများ ဆောက်လုပ်ခြင်းတို့အတွက် အထောက်အကူပြုပစ္စည်းများရရှိနိုင်ရန် အကောင်းဆုံးကြိုးပမ်းဆောင်ရွက်ပေးပါမည်။

၆-၁၃ **MAGDPL** အနေဖြင့် စီမံကိန်းလုပ်ငန်းကို ပီပြင်ကောင်းမွန်စွာ အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရေး၊ စီးပွားရေးလုပ်ငန်းအသီးသီး ခိုင်မာပီပြင်စွာလုပ်ဆောင်နိုင်ရေးအတွက် အဝင်/အထွက်လမ်းများ လုံလောက်စွာတည်ဆောက်နိုင်ရန် လျှပ်စစ်မီးနှင့်ရေပြည့်စုံစွာရရှိနိုင်ရန်၊ ကြေးနန်းဆက်သွယ်ရေး၊ သတင်းဆက်သွယ်ရေးစသည့် ဆက်သွယ်ဆက်ဆံရေးဝန်ဆောင်မှုများရရှိအောင် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**က ကူညီဆောင်ရွက်ပေးပါမည်။

၆-၁၄ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် ငှားရမ်းသည့်မြေပေါ်တွင် အကယ်၍ လက်ရှိနေထိုင်သူအိမ်ငှားများ၊ ခွင့်ပြုချက်ဖြင့်နေထိုင်သူများ၊ အခြားနည်းဖြင့် လက်ရှိနေထိုင်နေသူများရှိပါက ၎င်းတို့အား ပြန်လည်နေရာချထားရေး (လိုအပ်ပါက)နှင့် လျော်ကြေးပေးရန်ကိစ္စများကို **MAGDPL** နှင့် ညှိနှိုင်းစီစဉ်ပေးရမည်။

## ၇။ MAGDPL ၏တာဝန်ဝတ္တရားများ

၇-၁ **MAGDPL** သည် စာချုပ်ပါစည်းမျဉ်းစည်းကမ်းများနှင့်အညီ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**အား မြေအသုံးချမှုပရီမီယံကြေးနှင့် နှစ်စဉ်မြေငှားရမ်းခတို့ကို ပေးချေပါမည်။

၇-၂ **MAGDPL** သည် ဆိပ်ခံတံတားကို အမြန်ပြီးစီးအောင်တည်ဆောက်ရန်နှင့် ဆိပ်ခံတံတားလုပ်ငန်းကို နှစ်ဦးနှစ်ဖက်သဘောတူညီထားသည့် စံချိန်စံညွှန်းများနှင့်အညီ လုပ်ငန်းစီမံခန့်ခွဲဆောင်ရွက်ရမည်။

၇-၃ **MAGDPL** သည် နှစ်ဦးနှစ်ဖက်သဘောတူထားသည့် တည်ဆောက်ရေးပုံစံနှင့် ထို့နောက်ပိုင်း အခါအားလျော်စွာ နှစ်ဖက်သဘောတူဖြည့်စွက်ပြုပြင်သည့်ပုံစံအတိုင်း မြေဖွံ့ဖြိုးမှုကို တာဝန်ယူပါမည်။

၇-၄ **MAGDPL** သည် ဖွံ့ဖြိုးအောင်ဖော်ထုတ်ထားမြေတွင် စီးပွားရေးလုပ်ငန်းဆောင်တာများလုပ်ကိုင်ဆောင်ရွက်နိုင်ရန် ရင်းနှီးမြှုပ်နှံသူများအား ထပ်ဆင့်ငှားရမ်းခြင်းကို ဆောင်ရွက်ပိုင်ခွင့်ရှိပါသည်။ ယင်းသို့ဆောင်ရွက်ရာတွင် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**၏ သဘောတူညီချက်ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရယူပြီး ဆက်လက်ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများနှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်းကိုလည်း ကတိပြုပါသည်။

၇-၅ **MAGDPL** နှင့်တကွ ယင်း၏လက်အောက်ခံများ၊ အဖွဲ့ဝင်ကုမ္ပဏီများသည် နိုင်ငံသားရင်းနှီးမြှုပ်နှံသူများဖြစ်ပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်သွားရန်နှင့် နိုင်ငံခြားသားရင်းနှီးမြှုပ်နှံသူများဖြစ်ပါက နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ရမည်။

၇-၆ ငှားရမ်းသက်တမ်းကုန်ဆုံးသည့်အခါ **MAGDPL** က **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သို့ မည်သည့်အခကြေးငွေ သို့မဟုတ် လျော်ကြေးပေးရန်မလိုပဲ မရွှေ့မပြောင်းနိုင်သော ပစ္စည်းများအားလုံးကို (သဘာဝအလျောက် ထိခိုက်ပျက်စီးပွန်းပဲ့သည့် ချို့ယွင်းချက်များမပါဝင်ဘဲ) ကောင်းမွန်သောအနေအထားအတိုင်း ပြန်လည်၍ လွှဲပြောင်းအပ်နှံပေးရပါမည်။ နှစ်ဖက်

သဘောတူ ခန့်အပ်ထားမည့် အရည်အချင်းပြည့်ဝသည့်ကျွမ်းကျင်သူများက ယင်းပစ္စည်းများကို စမ်းသပ်စစ်ဆေးစေပြီး အတည်ပြုချက်ရယူရပါမည်။

၇-၇ ငှားရမ်းကာလကုန်ဆုံးသည့်အခါ ယင်းနယ်မြေပေါ်တွင် စီးပွားရေးလုပ်ငန်းဆောင်တာများ လုပ်ကိုင်နေသည့် ရင်းနှီးမြှုပ်နှံသူများသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်နှင့် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**နှင့် ငှားရမ်းသူအသစ် (အကယ်၍ ငှားရမ်းသူအသစ်ဖြစ်လာပါက) တို့၏ အတည်ပြုချက်ဖြင့် ၎င်းတို့၏လုပ်ငန်းတည်ရှိသည့် မြေ၏အပိုင်းကို ထပ်ဆင့်ငှားရမ်းခြင်းဖြင့် ဆက်လက်လုပ်ကိုင်နိုင်သည်။ အကယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်နှင့် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**၏ အတည်ပြုချက်မရရှိပါက **MAGDPL** သည် အဆိုပါမြေအပိုင်းကို **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သို့ မူလအခြေအနေအတိုင်း ငှားရမ်းသက်တမ်းကုန်ဆုံးသည့်နေ့မှ ၆ (ခြောက်) လအတွင်း ပြန်လည်အပ်နှံပါမည်။ အကယ်၍ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် မြေငှားရမ်းသည့်ကာလကို တိုးမြှင့်ရန်ဆန္ဒရှိပါက **MAGDPL** သို့ (၂)နှစ်ကြိုတင်ပြီး အသိပေးအကြောင်းကြားပါမည်။

၇-၈ **MAGDPL** သည် ဤသဘောတူစာချုပ် လက်မှတ်ရေးထိုးချုပ်ဆိုခြင်းအတွက် ကျသင့်သော တံဆိပ်ခေါင်းခွန်ကိုပေးဆောင်ရန်တာဝန်ရှိပြီး၊ လုပ်ငန်းစီမံကိန်းတည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စီမံအုပ်ချုပ်ခြင်းအတွက် ပေါ်ပေါက်လာမည့် ကျသင့်သော အခွန်အခအားလုံးကို ပေးဆောင်ရမည်။

၇-၉ ၂၀၁၅ ခုနှစ်၊ ဧပြီလ(၉)ရက်နေ့က ပြဋ္ဌာန်းခဲ့သော မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ဥပဒေနှင့် ဆက်လက်ပြဋ္ဌာန်းမည့် နည်းဥပဒေများ၊ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**မှ အခါအားလျော်စွာ ထုတ်ပြန်သည့် အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်ရမည်။

၈။ **သဘောတူစာချုပ်အရ ဆောင်ရွက်မည့် လုပ်ငန်းအတိုင်းအတာ**

၈-၁ **MAGDPL** သည် အထက်ပါစီမံကိန်းလုပ်ငန်းတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ မြန်မာကျပ်ငွေ ၂၅,၄၆၉,၆၂,၇၇၄/- (ကျပ် နှစ်သောင်းငါးထောင် လေးရာခြောက်ဆယ်ကိုးသန်း နှစ်သိန်းခြောက်သောင်းနှစ်ထောင် ခုနှစ်ရာခုနှစ်ဆယ်လေးတိတိ) နှင့် အမေရိကန်ဒေါ်လာ ၂၈,၉၈၃,၄၇၄ (အမေရိကန်ဒေါ်လာ နှစ်ဆယ့်ရှစ်သန်းကိုးသိန်း ရှစ်သောင်းသုံး ထောင်လေးရာခုနှစ်ဆယ့်လေးတိတိ) ရင်းနှီးမြှုပ်နှံ လုပ်ကိုင်ဆောင်ရွက်ပါမည်။

၈-၂ **MAGDPL** သည် ဆိပ်ကမ်းနယ်မြေတွင် ကောင်းမွန်ခိုင်ခံ့သောဆိပ်ခံတံတား တည်ဆောက်ပေးပါမည်။

၈-၃ ဆိပ်ခံတံတား တည်ဆောက်ရေးကာလနှင့် မြေယာဖွံ့ဖြိုးအောင် ဆောင်ရွက်ခြင်းသည် သဘောတူစာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍ ၃ (သုံး) နှစ် ကြာမြင့်ပါမည်။

၈-၄ **MAGDPL** သည် နှစ်ဦးနှစ်ဖက်သဘောတူထားသည့် ဆောက်လုပ်ရေးစီမံကိန်းနှင့်အညီ လုပ်ငန်းစီမံကိန်းအကောင်အထည်ဖော်ခြင်းနှင့် ရင်းနှီးမြှုပ်နှံသူများမှ သက်ဆိုင်ရာစီးပွားရေး လုပ်ငန်းဆောင်တာများ လုပ်ကိုင်ဆောင်ရွက်နိုင်ရေးအတွက် ဖွံ့ဖြိုးအောင်ဖော်ထုတ်ထား

သည့်မြေကို တည်ဆဲဥပဒေများနှင့်အညီ ထပ်ဆင့်ငှားရမ်းခြင်းကို အကောင်အထည်ဖော်ရပါမည်။ ထိုသို့ထပ်ဆင့်ငှားရမ်းမည်ဆိုပါက **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သို့ စာဖြင့်တင်ပြ၍ သဘောတူခွင့်ပြုချက်ရရှိပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ ဆောင်ရွက်ရမည်။

၉။ **လုပ်ငန်းဆောင်ရွက်မှုဘဏ်အာမခံ**

**MAGDPL** သည် လုပ်ငန်းဆောင်ရွက်မှုဘဏ်အာမခံအဖြစ် မြန်မာကျပ်ငွေရင်းနှီးမြှုပ်နှံငွေပမာဏ၏ ၁% ဖြစ်သော ငွေကျပ် ၂၅၄,၆၉၂,၆၂၇/-(ကျပ်ငွေ နှစ်ရာငါးဆယ်လေးသန်း ခြောက်သိန်းကိုးသောင်းနှစ်ထောင်ခြောက်ရာ နှစ်ဆယ်ခုနှစ်တိတိ) နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံငွေပမာဏ၏ ၁% ဖြစ်သော အမေရိကန်ဒေါ်လာ ၂၈၉,၈၃၄ (အမေရိကန်ဒေါ်လာ နှစ်သိန်းရှစ်သောင်း ကိုးထောင်ရှစ်ရာ သုံးဆယ်လေးတိတိ) ကို **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သို့ **နောက်ဆက်တွဲ(ဃ-၁)** နှင့် **နောက်ဆက်တွဲ(ဃ-၂)** တွင် ဖော်ပြပါရှိသည့်ပုံစံအတိုင်း စာချုပ်ချုပ်ပြီး (၄၅)ရက်အတွင်း ပေးသွင်းရပါမည်။ ထိုလုပ်ငန်းဆောင်ရွက်မှု ဘဏ်အာမခံကို ဆိပ်ခံတံတားတည်ဆောက်ပြီးစီးသည့်အချိန် (သို့မဟုတ်) ဤစာချုပ်ချုပ်ဆိုသည့်နေ့မှ ၃(သုံး)နှစ် သက်တမ်းပြည့်မြောက်သည့်နေ့ ထိုနှစ်ရက်အနက်စောရာနေ့တွင် ပြန်ပေးပါမည်။

၁၀။ **လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စီမံအုပ်ချုပ်ခြင်း**

၁၀-၁ အပိုဒ်၊ ၁၇-၂ နှင့်အညီ လုပ်ငန်းစီမံကိန်းကို ငှားရမ်းသည့်ကာလအတွင်း ဆောင်ရွက်ရပါမည်။

၁၀-၂ **MAGDPL** သည် လုပ်ငန်းဆိုင်ရာစာရင်းစာအုပ်များကို ရန်ကုန်မြို့ရှိ **MAGDPL** ရုံးသို့မဟုတ်စာရင်းကိုင်၏ရုံးတွင်ထားရှိပါမည်။ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် **MAGDPL** ထံသို့ အကြောင်းကြားစာကို ပုံမှန်ရုံးချိန်အတွင်း နည်းလမ်းတကျပေးပို့ပြီးနောက် **နောက်ဆက်တွဲ(ဂ)**တွင် ဖော်ပြထားသည့်အတိုင်း စုစုပေါင်းဝင်ငွေများကိုသိရှိနိုင်ရန်နှင့် ဆိပ်ကမ်းတံတား၏ ငွေစာရင်းများကိုသာစစ်ဆေးရန် အသိအမှတ်ပြုစာရင်းကိုင်တစ်ဦးကို ခန့်အပ်ခွင့်ရှိသည်။

၁၀-၃ အထက်ပါစည်းကမ်းချက်များကို ထိခိုက်နစ်နာစေမှုမရှိစေဘဲ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်** (သို့) ယင်း၏စာရင်းစစ်များ၊ အလုပ်သမားများ၊ ကိုယ်စားလှယ်များထံမှရရှိသော သတင်းအချက်အလက်တစ်ခုခုနှင့်အားလုံးကို လျှို့ဝှက်အဖြစ်မှတ်ယူရမည်ဖြစ်ပြီး **MAGDPL** (သို့) ဥပဒေအရ ခွင့်ပြုချက်မရလျှင် တတိယပုဂ္ဂိုလ်တစ်ဦးဦးထံ ဖြန့်ဝေခြင်းမပြုရ။

၁၀-၄ ဆိပ်ကမ်းအခွန်အခများနှင့် ဆိပ်ကမ်းကုန်တင်ကုန်ချ အခွန်အကောက်များကို **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**မှ အခါအားလျော်စွာထုတ်ပြန်သည့် နှုန်းထားများဇယားအတိုင်း ဆိပ်ကမ်းအသုံးပြုသူများထံမှ ကောက်ခံရန်သဘောတူပါသည်။ ယင်းဆိပ်ကမ်းအခွန်အခများ ပြောင်းလဲလျှင် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**မှ **MAGDPL** သို့ သင့်လျော်သောအချိန်ဖြင့် ကြိုတင်၍ အကြောင်းကြားပါမည်။

၁၁။ **ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၁၁-၁ **MAGDPL** သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ တည်ဆဲပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်းဆိုင်ရာဥပဒေများနှင့်အညီ ဆိပ်ကမ်းနယ်မြေနှင့် အနီးတစ်ဝိုက်တွင် ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်မှုအတွက် ဆောင်ရွက်ရန်တာဝန်ရှိသည်။

၁၁-၂ **MAGDPL** သည် ဆိပ်ကမ်းနယ်မြေတစ်ဝိုက်တွင် လေထု၊ ရေထု၊ မြေထုနှင့် အခြားပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်စေရန် ဆောင်ရွက်ပေးရမည်။

၁၁-၃ **MAGDPL** သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ တည်ဆဲပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်းဆိုင်ရာ ဥပဒေများနှင့်အညီ လုပ်ငန်းစီမံကိန်းတည်ရာဒေသကို ကာကွယ်စောင့်ရှောက်ရန် ဆိပ်ကမ်း၏စွန့်ပစ်ရေဆိုးများ သန့်စင်သည့်စက်ရုံနှင့် အခြားသန့်စင်သည့်နည်းလမ်းများကိုအသုံးပြုလျက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးတာဝန်ယူမှုများကို ဖြည့်စွမ်းရန်အလို့ငှာ မဖြစ်မနေလိုအပ်သော နည်းလမ်းများဖြင့် ဆောင်ရွက်ပေးရမည်။

၁၂။ **စာချုပ်သက်တမ်းနှင့် စာချုပ်အကျိုးသက်ရောက်သည့်နေ့**

၁၂-၁ ဤစာချုပ်သည် စာချုပ်ဝင်နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့တွင် စတင်အကျိုးသက်ရောက်သည်။

၁၂-၂ ဤစာချုပ်နှင့်ပတ်သက်၍ လုပ်ငန်းလုပ်ကိုင်ခွင့်ကာလသက်တမ်းမှာကနဦး ၅၀(ငါးဆယ်)နှစ်ဖြစ်ပြီး၊ အဆိုပါ ကနဦးသက်တမ်းကို ဤသဘောတူစာချုပ်ကို စာချုပ်ဝင်နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးသည့်နေ့မှ စတင်ရေတွက်ရမည်။

၁၂-၃ စာချုပ်ဝင်များသည် ငှားရမ်းကာလကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ဖြင့် တည်ဆဲစည်းမျဉ်း စည်းကမ်းများအတိုင်း နောက်ထပ်သက်တမ်း တစ်ကြိမ်လျှင် ၁၀ (တစ်ဆယ်) နှစ်နှင့် သက်တမ်းနှစ်ကြိမ် သက်တမ်းတိုးမြှင့်နိုင်သည်။

၁၂-၄ ဤစာချုပ် အပိုဒ် ၁၂-၃ အရ မြေငှားရမ်းသည့်သက်တမ်းကို တိုးမြှင့်ခြင်းမရှိခဲ့ပါက **MAGDPL** (သို့မဟုတ်) **MAGDPL** မှ သတ်မှတ်ထားသည့် **MAGDPL** ၏ မိတ်ဖက်ကုမ္ပဏီအနေဖြင့် စာချုပ်ဝင်များမှ သဘောတူထားသောနှုန်းထားဖြင့် မြေငှားရမ်းသည့်ကနဦးသက်တမ်းကုန်ဆုံးသည့်အချိန်မှ နောက်ထပ်သက်တမ်းတစ်ကြိမ်လျှင် ၁၀(တစ်ဆယ်) နှစ်နှင့် နှစ်ကြိမ်သက်တမ်းအတွက် စီမံကိန်းကိုလုပ်ကိုင်ဆောင်ရွက်ရန် အဆိုပြုကမ်းလှမ်းခွင့်ရှိပြီး ယင်းကုမ္ပဏီတို့အား ဦးစွာငြင်းပယ်ပိုင်ခွင့်အခွင့်အရေးပေးရမည်။ သို့ရာတွင် စက်မှုလုပ်ငန်းလုပ်ကိုင်ခွင့်ရသူသို့ စီမံအုပ်ချုပ်မှုအတွက် ကမ်းလှမ်းသည့်အလားတူနှုန်းထားနှင့်

အခြားအပြည်ပြည်ဆိုင်ရာဆိပ်ကမ်းသို့ ကောက်ခံသည့် တည်ဆဲဈေးကွက်ပေါက်ဈေးများ အတိုင်းဖြစ်စေရမည်။

၁၃။ **လုပ်ငန်းဆောင်ရွက်သည့်မြေသို့ ပြန်လည်ဝင်ရောက်ခွင့်**

**MAGDPL** သည် စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**က ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာရန် **MAGDPL** သို့ အကြောင်းကြားစာပေးပို့ပြီးနောက် ရက်ပေါင်း ၉၀ (ကိုးဆယ်)အတွင်း လိုက်နာမှုမရှိပါက **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် လုပ်ငန်းဆောင်ရွက်သည့် မြေနှင့် စက်ရုံအဆောက်အဦများကို ပြန်လည်ဝင်ရောက် လက်ရောက်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ ဝင်ရောက်လက်ရောက်ရယူခြင်းသည် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**က **MAGDPL** ထံမှ ရရန်ရှိသော မြေငှားရမ်းခများ (သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

၁၄။ **မြေနှင့်အဆောက်အဦလွှဲပြောင်းပေးအပ်ခြင်း**

၁၄-၁ စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့မှ ၆(ခြောက်)လအတွင်း သင့်တင့်သောပျက်စီးမှုနှင့် ယိုယွင်းမှုများကို ခြွင်းချက်ထား၍ ကောင်းမွန်သောအနေအထားရှိသည့် မရွှေ့မပြောင်းနိုင်သော ပစ္စည်းများကိုလည်းကောင်း၊ ပြန်လည်ပြုပြင်ထားပြီးသော မြေကိုလည်းကောင်း **MAGDPL** က **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**ထံ ပြန်လည်လွှဲပြောင်းပေးရမည်။

၁၄-၂ **MAGDPL** သည် ရွှေ့ပြောင်းနိုင်သော ပစ္စည်းများအားလုံးကို စာချုပ်သက်တမ်း ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်နေ့မှ ၆(ခြောက်)လအတွင်း မိမိ၏စရိတ်ဖြင့်ဖယ်ရှားပေးပြီး၊ အဆိုပါပစ္စည်းများကို ပြန်လည်ပိုင်ဆိုင်ခွင့် အခွင့်အရေးရှိစေရမည်။ အဆိုပါအချက်သည် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**၏ခွင့်ပြုချက်ဖြင့် **MAGDPL** မှ ငှားရမ်းထားသည့်မြေကို ပြန်လည်ပြုပြင်ရန် ဆက်လက်တည်ရှိနေသည့်ကာလအတွက် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**၏ အခွင့်အရေးဖြစ်သော နှစ်စဉ်ငှားရမ်းခတောင်းဆိုခြင်းကို မထိခိုက်စေရ။

၁၅။ **လုပ်ငန်းဆောင်ရွက်မှုဥပဒေ**

စာချုပ်ဝင်များသည် ဤစာချုပ်အရပေါ်ပေါက်လာသော မိမိတို့၏တာဝန်များကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ ဥပဒေများ၊ နည်းဥပဒေများ၊ စည်းမျဉ်းများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်ပြီး၊ စာချုပ်ဝင်များသည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ သက်ဆိုင်ရာ စီရင်ပိုင်ခွင့်ရှိသော တရားရုံးတော်များနှင့် အယူခံမှုများကို ကြားနာပိုင်ခွင့်ရှိသော တရားရုံးတော်များ၏ စီရင်ဆုံးဖြတ်ချက်ကိုနာခံရမည်။

၁၆။ **စာချုပ်ရပ်စဲခြင်း**

ဤစာချုပ်ကို အောက်ဖော်ပြပါ အကြောင်းခြင်းရာတစ်ရပ်ရပ် ဖြစ်ပေါ်လာလျှင် စာချုပ်ကိုရပ်စဲနိုင်သည် -

(က) ဤစာချုပ်ပါ တာဝန်များနှင့် စည်းကမ်းချက်တစ်ရပ်ရပ်ကို စာချုပ်ဝင်တစ်ဖက်ဖက်က ဆောင်ရွက်ရန်ပျက်ကွက်ခြင်း၊ အဆိုပါပျက်ကွက်မှုအတွက် ပျက်ကွက်ခြင်းမရှိသည့် စာချုပ်ဝင်မှကုစားပေးရန် အကြောင်းကြားစာပေးပို့သည့်နေ့မှ ၃ (သုံး) လအတွင်း ပျက်ကွက်သူက ကုစားပေးရန်ပျက်ကွက်ခြင်း။

(ခ) မလွန်ဆန်နိုင်သောဖြစ်ရပ်သည် တစ်ဆက်တည်း ၆ (ခြောက်)လ ကြာမြင့်စွာဖြစ်ပွားနေခြင်း။

(ဂ) ဤစာချုပ်၏ မူလရည်မှန်းချက်များကို ဆက်လက်အကောင်အထည်ဖော်နိုင်စွမ်း မရှိတော့ခြင်း။

(ဃ) နှစ်ဖက်သဘောတူလျှင် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဤစာချုပ်ရပ်စဲခြင်းအတွက် စာချုပ်ဝင်များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှောက်ထားချက်ကို ပူးပေါင်းတင်ပြရမည်။

၁၇။ **မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

၁၇-၁ မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် စာချုပ်ဝင်တစ်ဖက်မှ ဤစာချုပ်အရ ယင်း၏တာဝန်များကိုဆောင်ရွက်ရန် သို့မဟုတ် အခြားသောစာချုပ်ဝင်၏ ဆောင်ရွက်ပေးမှုကိုလက်ခံရန် အားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ ယာယီအားဖြင့်မဖြစ်နိုင်လျှင် ထိခိုက်နစ်နာသူစာချုပ်ဝင်က အခြားတစ်ဖက်သို့ မလွန်ဆန်နိုင်သောဖြစ်ရပ်၏ အကြောင်းအရာအပြည့်အစုံကိုဖော်ပြလျက် ယင်းဖြစ်ရပ်ဖြစ်ပွားပြီး ၁၄(တစ်ဆယ့်လေး)ရက်အတွင်း စာဖြင့်ရေးသားအကြောင်းကြားရမည်။

၁၇-၂ မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ထိခိုက်နစ်နာသူသည် တစ်ဖက်စာချုပ်ဝင်မှ သဘောတူပါက မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး ယင်းဖြစ်ရပ်ကြောင့် လုပ်ငန်းမဆောင်ရွက်နိုင်သည့်ကာလအတွင်း ၎င်း၏တာဝန်ကိုဆိုင်းငံ့ထားရမည်။ သို့ရာတွင်ဆိုင်းငံကာလသည်အကြောင်းအားလျော်စွာ လိုအပ်သည်ထက်ပို၍မကြာစေဘဲ အဆိုပါဖြစ်ရပ်ကိုလည်း ထိုက်သင့်သည့်လုံ့လဝီရိယဖြင့် တတ်နိုင်သမျှဖယ်ရှားပစ်ရမည်။

၁၇-၃ မလွန်ဆန်နိုင်သော ဖြစ်ရပ်များဆိုသည်မှာ သဘာဝဘေးအန္တရယ်များ၊ သပိတ်မှောက်ခြင်း ယာယီပိတ်ဆို့ခြင်း၊ စက်မှုလုပ်ငန်းဆိုင်ရာနှောင့်ယှက်ခြင်း၊ စစ်ပွဲဖြစ်ပွားခြင်း၊ သူပုန်ထခြင်း၊ ဆူပူမှုဖြစ်ခြင်း၊ ကူးစက်ရောဂါကျရောက်ခြင်း၊ အများပြည်သူဆိုင်ရာ နှောင့်ယှက်ခြင်း၊ ပေါက်ကွဲမှု၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ ဆူနာမီရေလှိုင်းဖြစ်ပေါ်ခြင်း၊ လျှင်လှုပ်ခြင်း၊ မုန်တိုင်းကျခြင်း၊ မိုးကြိုးပစ်ခြင်းနှင့် စာချုပ်ဝင်များကထိန်းချုပ်ခြင်းငှာမစွမ်းနိုင်သော အလားတူဖြစ်ရပ်တစ်ခုခုကိုဆိုလို၍ တစ်ဖက်စာချုပ်ဝင်က ကောင်းမွန်သောဂရုပြုမှုနှင့် ဆောင်ရွက်စေကာမှု မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်သည်။

၁၈။ **အငြင်းပွားမှုဖြေရှင်းခြင်း**

ဤစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာညှိနှိုင်းဖြေရှင်းစေရမည်။ ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်တစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့်ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေး

ချယ်ခန့်ထားသော သမာဓိလူကြီး၏အဆုံးအဖြတ်ကိုခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ဆုံးဖြတ်ချက်သည် အပြီးအပြတ်ဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံအနုညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံအက်ဥပဒေအမှတ်၊၄/၁၉၄၄)နှင့် နောက်ပိုင်းထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့်အညီဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ရန်ကုန်မြို့ဖြစ်စေရမည်။ အမှုအတွက်ကုန်ကျစရိတ်များကို အမှုရှုံးသူကကျခံရမည်။

၁၉။ **စာချုပ်ပြင်ဆင်ခြင်း**

ဤစာချုပ်ကို နှစ်ဖက်စာချုပ်ဝင်များ၏ စာဖြင့်ရေးသားထားသော သဘောတူညီချက်အရ မှတစ်ပါး ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းမပြုရ။ ဤစာချုပ်ကိုပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းသို့မဟုတ်ဖြည့်စွက်ခြင်း တစ်ခုခုကိုစာဖြင့်ရေးသား၍ စာချုပ်ဝင်များလက်မှတ်ထိုးကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာအာဏာပိုင် အဖွဲ့အစည်းများထံတင်ပြရမည်။ အဆိုပါပြင်ဆင်ချက်များသည် ဤစာချုပ်၏ အစိတ်အပိုင်းတစ်ခုဖြစ်စေရမည်။

၂၀။ **စာချုပ်ပြန်လည်ညှိနှိုင်းခြင်း**

လုပ်ငန်းများအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ကြိုတင်မမျှော်မှန်းထားခြင်းကြောင့် ပေါ်ပေါက်လာသည်အခြေအနေများ(သို့မဟုတ်)စည်းကမ်းချက်များသည် ဤစာချုပ်တွင်ဖြစ်စေ၊ မြေငှားစာချုပ်တွင်ဖြစ်စေ မူလစာချုပ်စည်းကမ်းချက်များနှင့်ကိုက်ညီမှုမရှိဘဲ ပြင်ဆင်ဖြည့်စွက်ပြောင်းလဲရန်လိုအပ်လာလျှင် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်စလုံးက လိုအပ်သောညှိနှိုင်းဆွေးနွေးမှုများပြုလုပ်ပြီး စာချုပ်များကို နှစ်ဦးသဘောတူစာဖြင့် ပြင်ဆင်ချုပ်ဆိုနိုင်သည်။ ထိုသို့ပြင်ဆင်ချက်များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က သဘောတူမှသာလျှင် အတည်ဖြစ်သည်။

၂၁။ **လွှဲအပ်ခြင်း**

**MAGDPL** သည် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ သဘောတူညီမှုကိုရယူ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အတည်ပြုချက်ဖြင့် ဤစာချုပ်အရ ၎င်း၏အခွင့်အရေးများ၊ ပိုင်ဆိုင်ခွင့်များ၊ အကျိုးစီးပွားများနှင့်တာဝန်များကို လုပ်ငန်းစီမံကိန်း အကောင်အထည်ဖော်ရန်အတွက် မြန်မာနိုင်ငံတွင် ဖွဲ့စည်းတည်ထောင်မည့် **MAGDPL** ၏ အုပ်စုဝင်ကုမ္ပဏီတစ်ခုခုသို့ လွှဲအပ်ခြင်းသဘောတူစာချုပ်ဖြင့် လွှဲပြောင်းနိုင်သည့်အခွင့်အရေးရှိသည်။ အဆိုပါလွှဲပြောင်းမှုကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူခွင့်ပြုချက်အရ ဆောင်ရွက်ပြီးနောက် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သို့ အကြောင်းကြားသည်နှင့် အဆိုပါလွှဲအပ်ခံရသူသည် **MAGDPL** ၏နေရာတွင် ဤစာချုပ်အရ အခွင့်အရေးများ၊ တာဝန်များအားလုံးကိုအပ်နှင်းခံထားရပြီးဖြစ်သည်ဟု **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**မှ လက်ခံသဘောတူပါသည်။

၂၂။ **အာမခံထားရှိခြင်း**

**MAGDPL** သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ၊ မြန်မာ့အာမခံဥပဒေနှင့် လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုအပ်သော အာမခံပုံစံအားလုံးကို အာမခံထားရှိပေးရမည်။

၂၃။ **အထွေထွေကိစ္စရပ်များ**

၂၃-၁ **MAGDPL** သည် ဆိပ်ကမ်းတည်ဆောက်ခြင်းနှင့် စီမံခန့်ခွဲခြင်းတို့အတွက် ၎င်းနှင့်ဆက်စပ်လျက် အတိုင်ပင်ခံများ၊ ကျွမ်းကျင်သူများ၊ သို့မဟုတ် အခကြေးငွေဖြင့် ဆောင်ရွက်သူများသို့မဟုတ် ကျွမ်းကျင်သူတစ်ဦးဦးနှင့်အားလုံးကို အလုပ်လုပ်ကိုင်စေရန်အခွင့်ရှိစေမည်ဖြစ်ကြောင်း အတိအလင်းသဘောတူပါသည်။ သို့ရာတွင် ယင်းတို့၏မူလတာဝန်ဝတ္တရားများသည် **MAGDPL** ၏ တာဝန်များဖြစ်စေရမည်။

၂၃-၂ ဤစာချုပ်နှင့် ဤစာချုပ်၏အကြောင်းအရာနှင့်စပ်လျဉ်း၍ စာချုပ်ဝင်များအကြား သဘောတူညီမှုများကို ရည်ညွှန်းသတ်မှတ်သော စည်းကမ်းချက်များသည် စာချုပ်ဝင်များအကြား ဤအကြောင်းအရာနှင့်ပတ်သက်၍ အရင်ကနှုတ်ဖြင့်ဖြစ်စေ၊ စာဖြင့်ဖြစ်စေ သဘောတူညီမှုများ၊ နားလည်မှုများကို လွှမ်းမိုးပယ်ဖျက်ပါသည်။

၂၄။ **စာပေးစာယူဆက်သွယ်ရန် လိပ်စာ**

စာချုပ်ဝင်များအကြား စာပေးစာယူဆက်သွယ်ရေးအားလုံးကို အောက်ပါလိပ်စာများသို့ ပေးပို့ဆက်သွယ်ရမည် -


ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

အမှတ်-၁၀၊ ပန်းဆိုးတန်းလမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့

ဖုန်း- ၉၅-၁-၂၄၆၇၈၁၊ ၃၇၉၁၄၁၊ ၃၇၉၁၄၂၊

ဖက်(စ်)အမှတ်- ၉၅-၁-၂၄၆၇၈၁၊ ၃၉၁၃၅၅၊ ၂၅၆၃၂၁

နှင့်

**Myanma Agricultural & General Development Public Ltd.**

ဥက္ကဋ္ဌ

UMFCCI Tower၊ အမှတ် (၂၉)၊ အခန်းအမှတ် (၈၀၃)၊ မင်းရဲကျော်စွာလမ်း၊
လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့

ဖုန်း၊ ၉၅-၁-၂၁၄၈၂၈၊ ၂၁၄၈၃၆၊

ဖက်(စ်)အမှတ်၊ ၉၅-၁-၂၁၄၈၃၆

စာချုပ်ဝင်များသည် သက်သေထင်ရှားစိမ့်သောငှာ အထက်ဖော်ပြပါ နေ့၊ လ၊ နှစ် တွင် စာချုပ်ဝင်များမှ မိမိတို့၏ သက်ဆိုင်ရာတံဆိပ်များခတ်နှိပ်လျှက် လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

**မြန်မာ့ဆိပ်ကမ်းအာဏာပိုင်(ကိုယ်စား)**

**Myanma Agricultural & General Development Public Ltd. (ကိုယ်စား)**

အမည်၊ ဦးကျော်မြင့်
ရာထူး၊ ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

အမည်၊ ဦးထွန်းလွင်
ရာထူး၊ ဥက္ကဌ
**Myanma Agricultural & General Development Public Ltd.**

**အသိသက်သေများ**

အမည်၊ ဦးနီအောင်
ရာထူး၊ အထွေထွေမန်နေဂျာ
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

အမည်၊ ဒေါက်တာမောင်မောင်အေး
ရာထူး၊ မန်နေဂျင်းဒါရိုက်တာ
**Myanma Agricultural & General Development Public Ltd.**

နောက်ဆက်တွဲ(ခ)

**အပိုင်း(က)-ဆောင်ရွက်မည့်လုပ်ငန်း**

ဆိပ်ကမ်းနယ်မြေတွင် ဆိပ်ခံတံတားတည်ဆောက်၍ လုပ်ငန်းလုပ်ကိုင်ရန်နှင့် ဖွံ့ဖြိုးအောင်ဖော်ထုတ်ထားသည့်မြေပေါ်တွင် ရင်းနှီးမြှုပ်နှံသူများက စီးပွားရေးလုပ်ငန်းဆောင်တာများဖြစ်သော "ကောက်ပဲသီးနှံ အဆင့်မြှင့်တင်စက်များ လည်ပတ်ထုတ်လုပ်ခြင်း၊ သိုလှောင်ခြင်း၊ ထုတ်ပိုးခြင်း၊ ဓါတ်မြေဩဇာစက်ရုံများ၊ ကိုယ်ပိုင်သုံးမီးစက်၊ ယာဥ်၊ စက်ယန္တရားများအပါအဝင် အထွေထွေကုန်စည်များ တင်သွင်းထားသိုနိုင်သည့် Warehouse" စသည့် စီးပွားရေးလုပ်ငန်းများနှင့် သက်ဆိုင်သော အဆောက်အအုံများကိုဆောက်လုပ်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများနှင့်သက်ဆိုင်ရာညွှန်ကြားချက်များ၊ အမိန့်ကြေညာချက်များအရလည်းကောင်း (ရင်းနှီးမြှုပ်နှံသူသည် နိုင်ငံခြားသား (သို့မဟုတ်)နိုင်ငံခြားသားနှင့် မြန်မာနိုင်ငံသားတို့ ဖက်စပ်လုပ်ငန်းထူထောင်ဖွဲ့စည်း၍ လုပ်ငန်းဆောင်ရွက်မည်ဆိုပါက နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများနှင့် စည်းမျဥ်းဥပဒေများအရလည်းကောင်း) စီးပွားရေးလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်နိုင်ရန် ၎င်းရင်းနှီးမြှုပ်နှံသူများထံ ထပ်ဆင့်ငှားရမ်းရန်အလို့ငှာ လုပ်ကိုင်ဆောင်ရွက်ပါမည်။

**အပိုင်း(ခ)- လုပ်ငန်းစီမံကိန်း၏အခြေခံအဆောက်အဦများစာရင်း**

၁။ ၁၉၀ မီတာ × ၃၀ မီတာဆိပ်ခံတံတား

၂။ ၂၀၀ မီတာ × ၂၀၀ မီတာ ဆိပ်ကမ်းလွင်ပြင်

၃။ ဖွံ့ဖြိုးအောင်ဖော်ထုတ်ထားသည့် မြေပေါ်တွင် ပြုလုပ်သောဖွံ့ဖြိုးရေးလုပ်ငန်းများ

# Conceptual Layout Plan Thilawa, Plot -29




Portion ~ A, Cargo Yard Area = 14.55 Acres

Portion ~ B, Grain & Bean Processing Area = 13.88 Acres

<u>Protion ~ C, Admin & Operation Area = 8.63 Acres</u>

Total Area = 37.06 Acres

မြန်မာ့လယ်ယာထွက်ကုန်နှင့် အထွေထွေဖွံ့ဖြိုးတိုးတက်ရေးအများပိုင်လီမိတက်မှ နှစ်ရှည်ငှားရမ်းထားသည့် ပို့ဆောင်ရေးဝန်ဖြ

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ သီလဝါဆိပ်ကမ်းဒေသရှိ အကျယ်အဝန်း (၃၇.၀၆) ဧကဝန်းကျင်ရှိသည့် အကွက်အမှတ် (၂၉) ၏ တည်



| RevNo | Revision [illegible]e | | Date | Signature | Checked |
|---|---|---|---|---|---|

**ပူးတွဲပုံစံ-ဂ**

**DEVELOPMENT OF THILAWA PORT TERMINAL,**
**AT THILAWA - PLOT (29)**
**CONSTRUCTION OF R.C MARGINAL WHARF**
**DECK PLAN (CONCEPTUAL)**




YANGON RIVER

Reference Dwg. No. 04 - THILAWA (**MAGDPL**) sht 1/1.

**Remarks**

Proposed Wharf Frontage is based on the need for keeping same straight frontage alignment of jetties/ wharves of plots (27), (28) & (29).

**Fender System**

Vertical Fender - Rubber Fender 600 H x 3500 L - Sumitomo Lamda Type or Equivalent. - 30 Nos

Horizontal Fender - Rubber Fender 300 H x 2500 L - Sumitomo Lamda Type or Equivalent - 28 Nos

**Bollard System**

Cast Steel 50-75 Ton Tee - head or equivalent for Ship Mooring. - 5 Nos

Cast Steel 100 Ton Tee - head or equivalent for Ship Mooring & Emergency during Storm Period. - 9 Nos

| Company | Myanma Agricultural & General Development Public Ltd. | | | | |
|---|---|---|---|---|---|
| Designed by C.E | Checked by C.E | Approved by - date C.E - 06.06.2014 | File name Thilawa | Date 05.06.2014 | Scale |
| Development of Thilawa Port Terminal at Port Plot (29) R.C Marginal Wharf | R.C Marginal Wharf - Deck Plan | | | | |
| | 05 - THILAWA (**MAGDPL**) | | | Edition 0 | Sheet 1/1 |

| RevNo | Revision Note | Date | Signature | Checked |
|---|---|---|---|---|

ပူးတွဲပုံ-၈

# DEVELOPMENT OF THILAWA PORT TERMINAL,
## AT THILAWA - PLOT (29)
## R.C MARGINAL WHARF
## CONCEPTUAL FRONT ELEVATION SHOWING R.C SUPERSTRUCTURE AND FOUNDATION PILES




Reference Dwg. No. 04 THILAWA (MAGDPL) sht 1/1.
05 THILAWA (MAGDPL) sht 1/1.

**Note :**

**Fender System**

Vertical Fender - Rubber Fender 600 H×3500 L - Sumitomo Lamda Type or Equivalent.

Horizontal Fender - Rubber Fender 300 H×2500 L - Sumitomo Lamda Type or Equivalent.

Construction Joint will be provided as required at Quay Apron and Transit Platform.

**Bollard System**

Cast Steel 50-75 Ton Tee-head or equivalent for Ship Mooring.

Cast Steel 100 Ton Tee-head or equivalent for Ship Mooring & Emergency during Storm Period.

| Company | Myanma Agricultural & General Development Public Ltd. | | | | |
|---|---|---|---|---|---|
| Designed by C.E | Checked by C.E | Approved by - date C.E - 5.6.2014 | File name Thilawa | Date 4.6.2014 | Scale |
| Development of Thilawa Port Terminal at Port Plot (29) R.C Marginal Wharf | R.C Marginal Wharf - Front Elevation | | | | |
| | 06 - THILAWA (MAGDPL) | | | Edition 0 | Sheet 1/1 |

| RevNo | Revision | Date | Signature | Checked |
|---|---|---|---|---|
| | | | | |

ဖူးတွဲပုံစံ-ဆ

**DEVELOPMENT OF THILAWA PORT TERMINAL,**

**AT THILAWA - PLOT (29)**

**R.C MARGINAL WHARF**

**CONCEPTUAL SIDE ELEVATION SHOWING R.C SUPERSTRUCTURE AND FOUNDATION PILES**




Side Elevation for R.C Marginal Wharf

Reference Dwg. No. 05 THILAWA (MAGDPL) sht 1/1.
06 THILAWA (MAGDPL) sht 1/1.

| Company | Myanma Agricultural & General Development Public Ltd. | | | | |
|---|---|---|---|---|---|
| Designed by C.E | Checked by C.E | Approved by - date C.E - 5.6.2014 | File name Thilawa | Date 4.6.2014 | Scale |
| Development of Thilawa Port Terminal at Port Plot (29) R.C Marginal Wharf | | R.C Marginal Wharf - Side Elevation | | | |
| | | 07 - THILAWA (MAGDPL) | | Edition 0 | Sheet 1/1 |

**DEVELOPMENT OF THILAWA PORT TERMINAL,**
**AT THILAWA - PLOT (29)**
**CONSTRUCTION OF R.C MARGINAL WHARF**
**PILING PLAN (CONCEPTUAL)**

| RevNo | Revision ...te | Date | Signature | Checked |
|---|---|---|---|---|

ပူးတွဲပုံစံ-၈




Reference dwg. No. 05 -THILAWA(MAGDPL)
06 -THILAWA(MAGDPL)
07 -THILAWA(MAGDPL)

**NOTE :**

1. All piles are PSC piles.
2. Foundation Pile Requirement : See attached Sheet in details.

| Company | Myanma Agricultural & General Development Public Ltd. | | | | |
|---|---|---|---|---|---|
| Designed by<br>C.E | Checked by<br>C.E | Approved by - date<br>C.E - 06.06.2014 | File name<br>Thilawa | Date<br>04.06.2014 | Scale |
| Development of Thilawa Port Terminal<br>at Port Plot (29)<br>R.C Marginal Wharf | R.C Marginal Wharf - Piling Plan | | | | |
| | 08 -THILAWA(MAGDPL) | | | Edition<br>0 | Sheet<br>1/1 |

နောက်ဆက်တွဲ(ဂ)

## စုစုပေါင်းဝင်ငွေ အစိပ္ပါယ်ဖော်ပြချက်

"စုစုပေါင်းဝင်ငွေ" ဆိုသည်မှာ ကောက်ခံရရှိသော ဆိပ်ကမ်းအခွန်အခငွေ စုစုပေါင်းကိုဆိုလို၍ အဆိုပါ တွက်ချက်မှုတွင် အောက်ပါတို့ပါဝင်စေရမည်-

(၁) ကုန်နှောင့်နှေးကြန့်ကြာကြေးရရှိငွေ (ဒဏ်ကြေး)၊

(၂) အထွေထွေကုန်စည်များကိုင်တွယ်မှုအတွက်ဝင်ငွေ၊

(၃) တံတားကပ်ခ၊ တံတားဖြတ်သန်းခ၊ ကုန်စည်သိုလှောင်ခ

(၄) ငှားရမ်းမည့်စုစုပေါင်းမြေ ဧရိယာ ၃၇. ၀၆ ဧကအနက် စီးပွားရေးလုပ်ငန်းဆောင်တာများ ဆောင်ရွက်ရန် လျာထားသည့်မြေဧရိယာ ၁၃. ၈၈ ဧကအပေါ် တစ်နှစ်လျှင်မြေတစ်ဧကကို ငွေကျပ် ၆,၄၈၆,၄၉၀ နှုန်းဖြင့် တွက်ချက်ရရှိသော နှစ်စဉ်မြေငှားရမ်းခ ကျသင့်ငွေကျပ် ၉၀,၀၃၂,၄၈၂/ (သို့မဟုတ်) ရင်းနှီးမြှုပ်နှံသူများထံ တစ်ဆင့်မြေငှားရမ်းသည့်အခါ အမှန်တကယ်ရရှိသည့် မြေငှားရမ်းခဝင်ငွေစုစုပေါင်းအပေါ်တွင် သက်ဆိုင်ရာနှစ်အလိုက် သတ်မှတ်ရာခိုင်နှုန်းအရ ကောက်ခံရရှိသည့်ဝင်ငွေ ၄င်းရရှိသည့်ဝင်ငွေနှစ်ရပ်အနက် များရာနှင့်

(၅) လုပ်ငန်းစီမံကိန်းဆောင်ရွက်ခြင်းမှရရှိသော အခြားဝင်ငွေများအားလုံး။

စီးပွားရေးလုပ်ငန်းဆောင်တာများဆောင်ရွက်ရန် လျာထားသည့်မြေဧရိယာ

- အလျား ၄၀၀ ပေ x အနံ ၁၅၀ ပေ x အမြင့် ၂၅ ပေ ရှိ သိုလှောင်ရုံ (၅) လုံး (စုစုပေါင်း အကျယ်အဝန်း စတုရန်းပေ ၃၀၀၀၀၀)
- အချင်း ၉၀ ပေရှိ ကောက်ပဲသီးနှံ Silo (၆) လုံး၏ အကျယ်အဝန်းစုစုပေါင်း စတုရန်းပေ ၄၈,၄၈၀

နောက်ဆက်တွဲ (ယ-၁)

**............................................ BANK**

YANGON, MYANMAR

**LETTER OF GUARANTEE**

DATED : - - 2015

REF NO : ...................

TO

MYANMA PORT AUTHORITY
YANGON, MYANMAR

**PERFORMANCE BANK GUARANTEE NO.**.....................

In consideration of your having concluded the Contract for the construction, operation and management of **MAGDPL Project** in Thilawa Port area dated ........ with **Myanma Agricultural & General Development Public Ltd.** for the development of a Modern Multi-Purposed International Port Terminal and Associated Utility Building at Thilawa Port area and it being a condition of the Contract that a performance guarantee of one percent (1%) of the estimated investment cost in Myanmar Kyat of the Project the amounting to Myanmar Kyat 254,692,627 be issued in your favour, we (---------------- Bank) hereby irrevocably and unconditionally guarantee to pay you without delay on your first written demand through ------------------ Bank any amount claimed by you up to the extent of Myanmar Kyat 254,692,627 against your written declaration that **Myanma Agricultural & General Development Public Ltd.** has refuses or failed to execute or perform any of the material terms and conditions of the aforesaid Contract including that the activities pertinent to the construction of a Modern Multi-Purposed International Port Terminal and Associated Utility Building under **MAGDPL Project** shall be operational within 3 (three) years from the date of signing of the Contracts.

This guarantee shall remain valid until 3 (three) years after the date of signing of the Contract.

Signature : ..................

Designation : ................

Bank :.........................

နောက်ဆက်တွဲ (ဃ-၂)

**MYANMA FOREIGN TRADE BANK**

YANGON, MYANMAR

**LETTER OF GUARANTEE**

DATED : - - 2015

NO : ........................

TO

MYANMA PORT AUTHORITY
YANGON, MYANMAR

**PERFORMANCE BANK GUARANTEE NO.** ......................

In consideration of your having concluded the Contract for the construction, operation and management of **MAGDPL Project** in Thilawa Port area dated ......... with **Myanma Agricultural & General Development Public Ltd.** for the development of a Modern Multi-Purposed International Port Terminal and Associated Utility Building at Thilawa Port area and it being a condition of the Contract that a performance guarantee of one percent (1%) of the estimated investment cost in United States Dollars of the Project the amounting to US$ 289,834.00 be issued in your favour, we (------------------------- Bank) hereby irrevocably and unconditionally guarantee to pay you without delay on your first written demand through (------------------------- Bank) any amount claimed by you up to the extent of US$ 289,834.00 against your written declaration that **Myanma Agricultural & General Development Public Ltd.** has refuses or failed to execute or perform any of the material terms and conditions of the aforesaid Contract including that the activities pertinent to the construction of a Modern Multi-Purposed International Port Terminal and Associated Utility Building under **MAGDPL Project** shall be operational within 3 (three) years from the date of signing of the Contracts.

This guarantee shall remain valid until 3 (three) years after the date of signing of the Contract.

Signature : ..................

Designation : ................

Bank :.......................

# ပို့ဆောင်ရေးဝန်ကြီးဌာန

# မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

နှင့်

# မြန်မာ့လယ်ယာထွက်ကုန်နှင့် အထွေထွေဖွံ့ဖြိုးတိုးတက်ရေး အများပိုင်လီမိတက်

# (Myanma Agriculture & General Development Public Limited)

တို့အကြား

ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊

သီလဝါဆိပ်ကမ်းမြေကွက်အမှတ်(၂၉) တွင်

လယ်ယာထွက်ကုန်နှင့် ဆီထွက်သီးနှံကုန်ပစ္စည်းများ တင်/ချ

ခေတ်မီဘက်စုံသုံး အပြည့်ပြည့်ဆိုင်ရာ ဆိပ်ခံတံတားနှင့်

ဆက်စပ်အဆောက်အအုံများကိုတည်ဆောက်၍ BOT စနစ်ဖြင့်

လုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန်အတွက် ချုပ်ဆိုသည့်

# မြေငှားစာချုပ် (မူကြမ်း)

# ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်း မြေကွက်အမှတ် (၂၉) တွင် လယ်ယာထွက်ကုန်နှင့် ဆီထွက်သီးနှံကုန်ပစ္စည်းများ တင်/ချ ခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတားနှင့် ဆက်စပ်အဆောက်အအုံများကိုတည်ဆောက်၍ BOT စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန်အတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Myanma Agricultural & General Development Public Ltd. (MAGDPL) တို့အကြား ချုပ်ဆိုသည့် မြေငှားစာချုပ် (မူကြမ်း)

ဤမြေငှားစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့တွင် ၂၀၁၅ ခုနှစ်၊ ----------လ (---------) ရက်နေ့၌၊

**ဦးကျော်မြင့်၊ ဦးဆောင်ညွှန်ကြားရေးမှူး** ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံဥပဒေများ၊ နည်းဥပဒေများနှင့်စည်းမျဉ်းများအရ ဖွဲ့စည်းထားသော ပို့ဆောင်ရေးဝန်ကြီးဌာနအောက်ရှိ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်** (နောင်တွင် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**ဟု ရည်ညွှန်းမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်း၏ ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟုမှတ်ယူရမည်) က တစ်ဖက်

နှင့်

**ဦးထွန်းလွင်**၊ နိုင်ငံသားစိစစ်ရေးကဒ်ပြားအမှတ်၊ ၁၂/လမတ(နိုင်) ၀၁၃၇၆၃၊ ဥက္ကဌ ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ ဥပဒေများ၊ နည်းဥပဒေများနှင့် စည်းမျဉ်းများအရ ဖွဲ့စည်းထားသော ရန်ကုန်မြို့၊ **UMFCCI Tower**၊ အမှတ်(၂၉)၊ အခန်းအမှတ် (၈၀၃)၊ မင်းရဲကျော်စွာလမ်း၊ လမ်းမတော် မြို့နယ်တွင်တည်ရှိသည့် **Myanma Agricultural & General Development Public Ltd.** (နောင်တွင် **MAGDPL** ဟု ခေါ်တွင်စေပြီး ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟုမှတ်ယူရမည်) က အခြားတစ်ဖက်တို့သည် အောက်ပါ စည်းကမ်းချက်များနှင့်အညီ နှစ်ဦးနှစ်ဖက်သဘောတူစာချုပ် ချုပ်ဆိုကြပါသည်။

နောင်တွင်တစ်ဖက်ဖက်စီကို "စာချုပ်ဝင်" ဟုလည်းကောင်း၊ နှစ်ဦးနှစ်ဖက်စလုံးကို "စာချုပ်ဝင်များ" ဟု လည်းကောင်း မှတ်ယူရမည်။

**နိဒါန်း**

(က) **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါဆိပ်ကမ်းနယ်မြေရှိ ဤသဘောတူစာချုပ်၏ **နောက်ဆက်တွဲ(က)**တွင် မြေနှင့်သက်ဆိုင်သော အချက်အလက်များကို အတိအကျဖော်ပြထားသည့် ဧရိယာ ၃၇. ၀၆ ဧကအကျယ်အဝန်းရှိ မြေကွက်

အမှတ်၊ ၂၉ (နောင်တွင် **ငှားရမ်းမည့်မြေ** ဟု ရည်ညွှန်းခေါ်ဆိုမည်) ကို ဥပဒေအရ တရားဝင် ပိုင်ဆိုင်ခွင့်ရှိကြောင်း ကိုယ်စားပြုအာမခံပါသည်။

(ခ) **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**နှင့် **MAGDPL** တို့အကြား ဤမြေငှားစာချုပ်နှင့် တစ်ရက်တည်း ချုပ်ဆိုသော ပဋိညာဉ်စာချုပ်ပါ စည်းမျဉ်းစည်းကမ်းများနှင့်အညီ **MAGDPL** က ငှားရမ်းသည့် မြေကို ငှားယူလိုသဖြင့်လည်းကောင်း၊ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**မှလည်း အဆိုပါမြေကို အငှားချထားလိုသဖြင့်လည်းကောင်း နှစ်ဖက်ညှိနှိုင်းသဘောတူကြသည့် စည်းမျဉ်းစည်းကမ်းများနှင့်အညီ ငှားရမ်းရန် သဘောတူကြပါသည်။

(ဂ) **MAGDPL** သည် ငှားရမ်းသည့်မြေ၏ အစိတ်အပိုင်းတစ်ရပ် (ဖွံ့ဖြိုးအောင်ဖော်ထုတ်ထားသည့်မြေ) ကို **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**က သတ်မှတ်ထားသော စည်းကမ်းချက်များနှင့်အညီ စီးပွားရေး လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် ရင်းနှီးမြှုပ်နှံလိုသူများအား တစ်ဆင့်အငှားချထားကာ စီးပွားရေး လုပ်ငန်းဆောင်တာများကို လုပ်ဆောင်ပါမည်။ စီးပွားရေးလုပ်ငန်းဆောင်တာများဆိုသည်မှာ ဖွံ့ဖြိုးအောင်ဖော်ထုတ်ထားသောမြေပေါ်၌ "ကောက်ပဲသီးနှံ အဆင့်မြှင့်တင်စက်များ လည်ပတ်ထုတ်လုပ်ခြင်း၊ သိုလှောင်ခြင်း၊ ထုတ်ပိုးခြင်း၊ ဓါတ်မြေဩဇာစက်ရုံများ၊ ကိုယ်ပိုင်သုံးမီးစက်၊ ယာဉ်၊ စက်ယန္တရားများအပါအဝင် အထွေထွေကုန်စည်များ တင်သွင်းထားသိုနိုင်သည့် Warehouse" စသည့် စီးပွားရေး လုပ်ငန်းများနှင့်သက်ဆိုင်သော အဆောက်အအုံများ (နောင်တွင် စီးပွားရေးလုပ်ငန်းဆောင်တာများဟု ရည်ညွှန်းခေါ်ဆိုမည်) ကို ဆောက်လုပ်၍ လုပ်ငန်းများဆောင်ရွက်ရန်ဖြစ်ပါသည်။ အဆိုပါ စီးပွားရေး လုပ်ငန်းဆောင်တာများကို ဆောင်ရွက်ရန်အတွက် ထပ်ဆင့်မြေငှားရမ်းရာတွင် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**၏ ကနဦးသဘောတူညီချက်ကိုရယူရပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရယူရမည်။ ထို့အပြင် ခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာဆိပ်ခံတံတားတည်ဆောက်ပြီး လုပ်ငန်းများဆောင်ရွက်ရန် (ဤမှနောင်တွင် ဆိပ်ခံတံတားဟုရည်ညွှန်းခေါ်ဆိုရမည်) နှင့် လုပ်ငန်းနှင့် စပ်နွှယ်သည့် အဆောက်အအုံများ၊ ရုံးသုံးပစ္စည်းများ၊ ပြုပြင်ထိန်းသိမ်းရေးဝန်ဆောင်မှုများနှင့် ပြုပြင်ခြင်း အထောက်အကူပြုလုပ်ငန်းများ၊ အကောက်အခွန်စစ်ဆေးရေးစခန်းများ၊ ဆိပ်ခံတံတားအတွက် အထောက်အကူပြုလုပ်ငန်းများကို ဆိပ်ကမ်းမြေ (Port Land) နှင့် လိုက်လျောညီထွေဖြစ်စေသည့် လိုအပ်သောလုပ်ငန်းများနှင့် ရှေ့တွင်ဖော်ပြခဲ့သော လုပ်ငန်းဆောင်တာအဝဝကို စုပေါင်း၍ **"လုပ်ငန်းစီမံကိန်း"** ဟု နောင်တွင် ရည်ညွှန်းသုံးစွဲမည်ဖြစ်ပါသည်။

## ၁။ မြေငှားရမ်းခြင်း

**MAGDPL** က မြေအသုံးချမှုပရီမီယံကြေးနှင့် နှစ်စဉ်မြေငှားရမ်းခများကို အောက်ပါစည်းကမ်းသတ်မှတ်ချက်များနှင့်အညီ ပေးချေရန်သဘောတူသောကြောင့် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**မှ **MAGDPL** သို့ ငှားရမ်းသည့်မြေအား ကနဦး ၅၀ (ငါးဆယ်)နှစ် သက်တမ်းငှားရမ်းရန်နှင့် မြန်မာ

| လုပ်ငန်းဆောင်ရွက်သောနှစ် | ငှားရမ်းခငွေပေးသွင်းခြင်း |
|---|---|
| (က) ပထမနှစ်မှ (၁၀)နှစ်မြောက် | စုစုပေါင်းဝင်ငွေ၏ ၆% |
| (ခ) (၁၁)နှစ်မှ (၂၀)နှစ်မြောက် | စုစုပေါင်းဝင်ငွေ၏ ၁၂% |
| (ဂ) (၂၁)နှစ်မှ (၃၅)နှစ်မြောက် | စုစုပေါင်းဝင်ငွေ၏ ၁၈% |
| (ဃ) (၃၆)နှစ်မြောက်မှ အထက် | စုစုပေါင်းဝင်ငွေ၏ ၂၀% |

(အနည်းဆုံးနှစ်စဉ်စုစုပေါင်းဝင်ငွေကို ပဋိညာဉ်စာချုပ် **နောက်ဆက်တွဲ(ဂ)အပိုဒ်ခွဲ-၃** တွင် ဖော်ပြထားသည့်အတိုင်း ငွေကျပ် ၉၀,၀၃၂,၄၈၂ ဟု တွက်ချက်ရပါမည်။)

၃-၂ ပထမနှစ်အပါအဝင်သက်ဆိုင်ရာဘဏ္ဍာရေးနှစ်အတွက် ငှားရမ်းခကြိုတင်ပေးငွေကို အဆိုပါ ဘဏ္ဍာရေးနှစ်၏ နောက်ဘဏ္ဍာရေးနှစ် ဧပြီလ(၃၀)ရက်နေ့ထက်နောက်မကျစေဘဲ ကြိုတင် ပေးထားရပါမည်။ အဆိုပါကြိုတင်ပေးငွေကို သက်ဆိုင်ရာဘဏ္ဍာရေးနှစ်အတွက် **MAGDPL** ၏ စာရင်း စစ်ဆေးခြင်းမပြုရသေးသော စုစုပေါင်းဝင်ငွေအပေါ် အခြေခံ၍ပေးရပါမည်။

၃-၃ နှစ်စဉ်ငှားရမ်းခ အပြီးသတ်ပေးချေမှုကို သက်ဆိုင်ရာဘဏ္ဍာရေးနှစ်အတွက် စာရင်းစစ်ဆေး ပြီး ဘဏ္ဍာရေးရှင်းတမ်းထွက်ပြီးနောက် ဩဂုတ်လ(၃၀)ရက်နေ့ထက် နောက်မကျစေဘဲ အပြီးသတ်ပေးချေရပါမည်။

၃-၄ အထက်ဖော်ပြပါ သတ်မှတ်ချက်အတိုင်း နှစ်စဉ်မြေငှားရမ်းခ ပေးဆောင်ရန်ပျက်ကွက်ပါက ဤမြေငှားစာချုပ်၏ အပိုဒ် ၁၁ (က) နှင့်အညီ စာချုပ်ကို ရပ်စဲနိုင်သည်။

## ၄။ MAGDPL ၏ အခွင့်အရေးများနှင့် တာဝန်ဝတ္တရားများ

**MAGDPL** သည် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**နှင့် အောက်ပါအတိုင်း ကတိကဝတ်ပြုပါသည်-

(က) **MAGDPL** သည် အထက်တွင်ဖော်ပြခဲ့သော နည်းလမ်း၊ သတ်မှတ်ချက်စည်းကမ်းများနှင့် အညီ နှစ်စဉ်မြေငှားရမ်းခကို သတ်မှတ်သည့်နေ့ရက်တွင် ပေးချေရပါမည်။ ထို့အပြင် သက်ဆိုင်ရာအာဏာပိုင် အဖွဲ့အစည်းများက ၄င်းတို့ဖြည့်ဆည်းပေးရသော ဝန်ဆောင်မှုများ အတွက် ကောက်ခံသည့်သင့်မြတ်သော အခွန်အခများကိုလည်း ပေးဆောင်ရပါမည်။

(ခ) **MAGDPL** သည် ပဋိညာဉ်စာချုပ်ပါ စည်းမျဉ်းများနှင့်အညီ ရင်းနှီးမြှုပ်နှံသူများကို စီးပွား ရေးလုပ်ငန်းဆောင်တာများဆောင်ရွက်ရန် ထပ်ဆင့်ငှားရမ်းခြင်းအတွက် မြေကိုဖွံ့ဖြိုးအောင် ဆောင်ရွက်ခြင်းနှင့် ဆိပ်ခံတံတားတည်ဆောက်ခြင်းအတွက်သာ အသုံးပြုပါမည်။ သို့ရာတွင် အဆိုပါထပ်ဆင့်ငှားရမ်းခြင်းအတွက် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**၏ သဘောတူညီချက်ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြအတည်ပြုချက်ရယူပြီး ဆောင်ရွက်ရမည်။

(ဂ) **MAGDPL** သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ တည်ဆဲပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ခြင်းဆိုင်ရာ ဥပဒေများနှင့်အညီ ဆိပ်ကမ်းနယ်မြေနှင့် အနီးတစ်ဝိုက်တွင် ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်မှုအတွက် ဆောင်ရွက်ရန်တာဝန်ရှိမည်။ **MAGDPL** သည် ဆိပ်ကမ်းနယ်မြေတစ်ဝိုက်တွင် လေထု၊ ရေထု၊ မြေထုနှင့် အခြားပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်စေရန် ဆောင်ရွက်ပေးရမည်။ **MAGDPL** သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ တည်ဆဲပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ခြင်းဆိုင်ရာ ဥပဒေများနှင့်အညီ လုပ်ငန်းစီမံကိန်းတည်ရာဒေသကို ကာကွယ်စောင့်ရှောက်ရန် ဆိပ်ကမ်း၏စွန့်ပစ်ရေဆိုးများ သန့်စင်သည့်စက်ရုံနှင့် အခြားသန့်စင်သည့်နည်းလမ်းများကို အသုံးပြုလျက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးတာဝန်ယူမှုများကို ဖြည့်စွမ်းရန်အလို့ငှာ မဖြစ်မနေလိုအပ်သောနည်းလမ်းများဖြင့် ဆောင်ရွက်ပေးရမည်။

(ဃ) **MAGDPL** သည် ဤမြေငှားစာချုပ် လက်မှတ်ရေးထိုးချုပ်ဆိုခြင်းအတွက် ကျသင့်သောတံဆိပ်ခေါင်းခွန်ကိုပေးဆောင်ရန်တာဝန်ရှိပြီး၊ လုပ်ငန်းစီမံကိန်းတည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စီမံအုပ်ချုပ်ခြင်းအတွက် ပေါ်ပေါက်လာမည့် ကျသင့်သော အခွန်အခအားလုံးကို ပေးဆောင်ရမည်။

(င) **MAGDPL** သည် ငှားရမ်းသည့်မြေကို **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**၏ စာဖြင့်ရေးသောကြိုတင်ခွင့်ပြုချက်မရဘဲ ဤစာချုပ်ပါရည်ရွယ်ချက် သို့မဟုတ် ပဋိညာဉ်စာချုပ်၏ **နောက်ဆက်တွဲ(ခ)**ပါ သတ်မှတ်ဖော်ပြထားသည့်အတိုင်း ငှားရမ်းမြေပေါ်တွင် တပ်ဆင်ထားသောပစ္စည်းကရိယာများကို ကြီးမားစွာပြောင်းလဲခြင်းကို တားမြစ်ပါသည်။ သို့ရာတွင် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် (၎င်းသဘောတူညီချက်ကို အကျိုးအကြောင်း ဆီလျော်မှုမရှိဘဲ) ထိန်းချုပ်ထားခြင်း မရှိစေရ။

(စ) **MAGDPL** သည် ဖွံ့ဖြိုးအောင်ဖော်ထုတ်ထားသည့်မြေကို ရင်းနှီးမြှုပ်နှံသူများသို့ စီးပွားရေးလုပ်ငန်းဆောင်တာများဆောင်ရွက်ရန်အတွက် ပဋိညာဉ်စာချုပ်ပါ သတ်မှတ်ချက်များနှင့်အညီ ထပ်ဆင့်ငှားရမ်းနိုင်သည့် အခွင့်အရေးရှိပါသည်။ သို့ရာတွင် အဆိုပါထပ်ဆင့်ငှားရမ်းခြင်းအတွက် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**၏ သဘောတူညီချက်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံတင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ ဆောင်ရွက်ရမည်။

(ဆ) **MAGDPL** သို့မဟုတ် လက်အောက်ခံကုမ္ပဏီများနှင့် အုပ်စုဝင်ကုမ္ပဏီတစ်ခုခုသည် စီးပွားရေးလုပ်ငန်းဆောင်တာများဆောင်ရွက်ရန် ပဋိညာဉ်စာချုပ်တွင် ဖော်ပြထားသည့်အတိုင်း ဖွံ့ဖြိုးအောင်ဖော်ထုတ်ထားသည့်မြေအား ရင်းနှီးမြှုပ်နှံသူများကို တစ်ဆင့်ငှားရမ်းလုပ်ကိုင်ဆောင်ရွက်ခွင့်ရှိပါသည်။ သို့ရာတွင် အဆိုပါ ထပ်ဆင့်ငှားရမ်းခြင်းအတွက် **မြန်မာ့**

**ဆိပ်ကမ်းအာဏာပိုင်**၏ သဘောတူညီချက်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံ တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ ဆောင်ရွက်ရမည်။

၅။ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ အခွင့်အရေးများနှင့်တာဝန်ဝတ္တရားများ**

MAGDPL က မြေငှားစာချုပ်ပါစည်းကမ်းသတ်မှတ်ချက်များ၊ သဘောတူညီချက်များ၊ စည်းမျဉ်း စည်းကမ်းများကို လိုက်နာဆောင်ရွက်သည်နှင့်အမျှ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် MAGDPL နှင့် အောက်ပါအတိုင်း ကတိကဝတ်ပြုပါသည်-

(က) **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် ငှားရမ်းသည့်မြေကို MAGDPL အား ကြွေးမြီ၊ ဝန်ထုပ် ဝန်ပိုးနှင့် ပေးရန်တာဝန်နှင့် တစ်စုံတစ်ရာ နစ်နာကြေးတောင်းဆိုခြင်းများ ကင်းရှင်းစွာဖြင့် အလွတ်အလပ် လက်ရောက်ပေးအပ်ရမည်။

(ခ) **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် ကုန်သေတ္တာ၊ အထွေထွေကုန်ပစ္စည်းများ၊ အရည်ဖြင့်စီမံ ထားသောကုန်ပစ္စည်းများနှင့် ကုန်သေတ္တာတင်ယာဉ်များ ဆိပ်ကမ်းနယ်မြေနှင့်ဆိပ်ခံတံတား ဝန်းကျင်သို့ ဝင်/ထွက်သွားလာနိုင်ရန် လုံလောက်သော အခြေခံအဆောက်အအုံရှိရန် အာမခံဖြည့်ဆည်းပေးရမည်။

(ဂ) **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် ငှားရမ်းသည့်မြေအတွက် ကျသင့်သော မြေခွန်များကို ပေးဆောင်ရမည်။

(ဃ) **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် MAGDPL က ဖွံ့ဖြိုးအောင်ဖော်ထုတ်ထားသည့်မြေတွင် ပဋိညာဉ်စာချုပ်ပါ ဖော်ပြသတ်မှတ်ထားသောစည်းကမ်းချက်များအတိုင်း ရင်းနှီးမြှုပ်နှံသူများ အား စီးပွားရေးလုပ်ငန်းများပြုလုပ်နိုင်ရန် ထပ်ဆင့်အငှားချထားခွင့်ပြုရမည်။ သို့ရာတွင် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**၏ သဘောတူညီချက်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ တင်ပြခွင့်ပြုချက်ရရှိပြီးမှသာ ဆောင်ရွက်ရမည်။

(င) ဤမြေငှားရမ်းသည့် သက်တမ်းကာလတစ်လျှောက်လုံး MAGDPL သည် **မြန်မာ့ဆိပ်ကမ်း အာဏာပိုင်**ကဖြစ်စေ သို့မဟုတ် အခြားတစ်စုံတစ်ယောက်ကဖြစ်စေ စွက်ဖက်မှု သို့မဟုတ် နှောင့်ယှက်မှုတစ်ခုခုမရှိစေဘဲ မြေကိုအေးချမ်းစွာ လက်ဝယ်ရှိထားနိုင်စေရမည်။

(စ) **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် အကောက်ခွန်နှင့် လူဝင်မှုကြီးကြပ်ရေးစစ်ဆေးရေး စခန်း များ၊ တင်သွင်းကုန်စည်များမရွေးယူမီ သိမ်းဆည်းရန် ကုန်လှောင်ရုံများ၊ အကောက်ခွန်ရှင်း လင်းရေးစခန်းများနှင့် အခြားအလားတူစခန်းများ အကန့်အသတ်မရှိ အပါအဝင်ဖြစ်သော ကုန်သေတ္တာပစ္စည်းသိုလှောင်ရုံတစ်ခုအတွက် လိုအပ်သောအထောက်အကူများအားလုံး ရရှိ စေရန် အကောင်းဆုံးကြိုးပမ်းဆောင်ရွက်ပေးရမည်။

(ဆ) **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် **MAGDPL** မှ စီမံကိန်းလုပ်ငန်းပီပြင်စွာ အပြည့်အဝ ဆောင်ရွက်နိုင်စေရန် ငှားရမ်းနယ်မြေသို့ဝင်ရောက်မည့် အဝင်အထွက်လမ်းများ ဖောက်လုပ်ရေး၊ လျှပ်စစ်မီးနှင့်ရေရရှိရေး၊ ကြေးနန်းနှင့်ဆက်သွယ်ရေး အထောက်အကူပစ္စည်းများ စသည့် အခြေခံအဆောက်အအုံများကို သင့်တင့်လုံလောက်မှုရရှိစေရန် ကူညီပံ့ပိုးဆောင်ရွက်ပေးပါမည်။ ပဋိညာဉ်စာချုပ်တွင် သတ်မှတ်ထားသည့်အတိုင်း ရင်းနှီးမြှုပ်နှံသူများသည် စီးပွားရေးလုပ်ငန်းဆောင်တာများ ထိရောက်စွာဆောင်ရွက်နိုင်ရန်၊ အကောင်အထည်ဖော်နိုင်ရန် **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**က အတတ်နိုင်ဆုံး ကူညီပံ့ပိုးဆောင်ရွက်ပေးပါမည်။

(ဇ) **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**သည် ငှားရမ်းသည့်မြေပေါ်တွင် အကယ်၍လက်ရှိနေထိုင်သူ အိမ်ငှားများ၊ ခွင့်ပြုချက်ဖြင့်နေထိုင်သူများ၊ အခြားနည်းဖြင့် လက်ရှိနေထိုင်နေသူများရှိပါက ၎င်းတို့အား ပြန်လည်နေရာချထားရေး (လိုအပ်ပါက)နှင့် လျော်ကြေးပေးရန်ကိစ္စများကို **MAGDPL** နှင့် ညှိနှိုင်းစီစဉ်ဆောင်ရွက်ပေးရမည်။

၆။ **စာချုပ်ပြန်လည်ညှိနှိုင်းခြင်း**

လုပ်ငန်းများအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ကြိုတင်မမျှော်မှန်းထားခြင်းကြောင့် ပေါ်ပေါက်လာသည့်အခြေအနေများ (သို့မဟုတ်) စည်းကမ်းချက်များသည် ဤမြေငှားစာချုပ်တွင်ဖြစ်စေ၊ ပဋိညာဉ်စာချုပ်တွင်ဖြစ်စေ မူလအခြေအနေနှင့်ကိုက်ညီမှုမရှိသဖြင့် ပြင်ဆင်ဖြည့်စွက်ပြောင်းလဲရန် လိုအပ်လာလျှင် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်စလုံး လိုအပ်သော ညှိနှိုင်းဆွေးနွေးမှုများပြုလုပ်ပြီး စာချုပ်များကို နှစ်ဦးသဘောတူစာဖြင့် ပြင်ဆင်ချုပ်ဆိုနိုင်သည်။ ထိုသို့ပြင်ဆင်ချက်များသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်က သဘောတူမှသာလျှင် အတည်ဖြစ်သည်။

၇။ **စာချုပ်ပြင်ဆင်ခြင်း**

ဤစာချုပ်ကို နှစ်ဖက်စာချုပ်ဝင်များ၏ စာဖြင့်ရေးသားထားသော သဘောတူညီချက်အရ မှတစ်ပါး ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းမပြုရ။ ဤစာချုပ်ကိုပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းသို့မဟုတ်ဖြည့်စွက်ခြင်း တစ်ခုခုကို စာဖြင့်ရေးသား၍ စာချုပ်ဝင်များလက်မှတ်ထိုးကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာအာဏာပိုင် အဖွဲ့အစည်းများထံတင်ပြရမည်။ အဆိုပါ ပြင်ဆင်ချက်များသည် ဤစာချုပ်၏ အစိတ်အပိုင်းတစ်ခုဖြစ်စေရမည်။

၈။ **လုပ်ငန်းဆောင်ရွက်မှုဥပဒေ**

စာချုပ်ဝင်များသည် ဤမြေငှားစာချုပ်အရပေါ်ပေါက်လာသော မိမိတို့၏တာဝန်များကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ဥပဒေများ၊ နည်းဥပဒေများ၊ စည်းမျဉ်းများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်ပြီး၊ စာချုပ်ဝင်များသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

